# أربعون نصيحة لإصلاح البيوت

# အိမ်များ ပြုပြင်မှုရရန် စေတနာစကား(၄၀)

ချီးမွမ်းထောမနာ အလုံးစုံသည် အလ္လာဟ်အရှင်မြတ်အတွက်သာ ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်က မိန့်ကြားပါသည်။

وَاللَّهُ جَعَلَ لَكُم مِّنۢ بُيُوتِكُمْ سَكَنًا

" ထို့ပြင် အလ္လာဟ် အရှင်မြတ်သည် အသင်တို့အတွက် အသင်တို့၏ အိမ်များကို နေထိုင်ရာဌာန ပြုလုပ်တော်မူခဲ့သည်။" (ကုရ်အာန်–၁၆း၈၀)

အလ္လာဟ်အရှင်မြတ်သည် မိမိကျေးကျွန်ပေါ်ရှိသော မိမိ၏ကျေးဇူးတော်တွေကို ထုတ်ဖော်ပြထားသည်။ ထိုကျေးဇူးအနက် တစ်ခုမှာ အိမ်များကို သူတို့ခိုလှုံအနားယူရန်၊ အမျိုးမျိုးအကျိုးခံစားရန်၊ ဖုံးကွယ် လုံခြုံမှုရရန် ဖန်တီးပေးထားခြင်းဖြစ်သည်။

အိမ်ဟုပြောလျှင် ကျွန်ုပ်တို့ ဘယ်လို မြင်ကြသနည်း။ အိမ်သည် စားသောက်သောနေရာ၊ ထိမ်းမြားနေထိုင်ရာ၊ အိပ်စက် အနားယူရာနေရာ မဟုတ်ပါလော။ အိမ်သည် တစ်ဦးတည်း လွတ်လပ်စွာနေထိုင်နိုင်သော၊ မိမိသားမယားများနှင့် ပူးပေါင်းနေထိုင်ရာ နေရာမဟုတ်ပါလော။ အိမ်သည် အမျိုးသမီးကို ထိန်းသိမ်းကာကွယ်ပေးသော နေရာ မဟုတ်ပါလော။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်။

وَقَرْنَ فِي بُيُوتِكُنَّ وَلَا تَبَرَّجْنَ تَبَرُّجَ الْجَاهِلِيَّةِ الْأُولَىٰ

"ထို့ပြင် အသင်မတို့သည် အသင်မတို့၏နေအိမ်များ၌ပင် တည်ငြိမ်စွာ နေထိုင် ကြပါ။ ထို့ပြင် ယခင်အမိုက်ခေတ်က အလှအပကို (အခြားအမျိုးသမီးများ) ထုတ်ဖော် ပြသကြသကဲ့သို့ အသင်မတို့သည် အသင်မတို့၏အလှအပကို ထုတ်ဖော် မပြသကြ နှင့်။" (ကုရ်အာန်-၃၃း၃၃)

သင်သည် အိမ်ရာမရှိဘဲ ဇရပ်တို့၊ ပလပ်ဖောင်းတို့၊ ကျူးကျော်နယ်က ယာယီ တဲစုတ်တဲပျက်တို့မှာ နေရသောသူတွေကို မြင်တွေ့ရသောအခါ အိမ်၏ စည်းစိမ်အမှန်၊ တန်ဖိုးအမှန်ကို သိရလိမ့်မည်။ တစ်ဦးတစ်ယောက်က "ကျွန်ုပ်မှာ နေရာအတည် တကျ မရှိ။ တစ်ခါတရံ ကျွန်ုပ် ဘယ်သူဘယ်ဝါ၏ အိမ်တွင်အိပ်သည်။ တစ်ခါတရံ လက်ဖက် ရည်ဆိုင်မှာ၊ တစ်ခါတရံ ပန်းခြံထဲမှာ အိပ်သည်။ ကျွန်ုပ်အဝတ်အစား ထားရာကတော့ ကျွန်ုပ်၏ ကားပင်ဖြစ်သည်။"ဟု အသင်ကြားရသောအခါ အိမ်၏ စည်းစိမ်မှ လက်မဲ့ဖြစ် နေသော တစ်ကောင်ကြွက်ဘဝ၊ အိမ်ခြေမဲ့ဘဝ၏ အဓိပ္ပာယ်ကို နားလည်လာလိမ့်မည်။

အလ္လာဟ်အရှင်မြတ်က ဗနူနသွီးရ် မျိုးနွယ်မှ ယဟူဒီများကို ပြစ်ဒဏ်ခတ်ပြီး အိမ်ရှိခြင်းဘဝကို ရုပ်သိမ်းလိုက်ပြီး မိမိတို့နေ အိမ်များမှ မောင်းထုတ်ပစ်ခဲ့သောအခါ ဤသို့ မိန့်တော်မူခဲ့သည်။

هُوَ الَّذِيٓ أَخۡرَجَ الَّذِينَ كَفَرُواْ مِنۡ أَهۡلِ الۡكِتَٰبِ مِن دِيَٰرِهِمۡ لِأَوَّلِ الۡحَشۡرِۚ

"အရှင်မြတ်သည် ယခင်က ကျမ်းရသူများထဲမှ ငြင်းပယ်ခဲ့ကြသည့် သူများကို ပထမအကြိမ် စုရုံးကြသည့်အခါ၌ပင် သူတို့၏ နေအိမ်များမှ နှင်ထုတ်တော်မူခဲ့သည့် အရှင် ဖြစ်တော်မူသည်။" (ကုရ်အာန်- ၅၉း၂)

يُخۡرِبُونَ بُيُوتَهُم بِأَيۡدِيهِمۡ وَأَيۡدِي الۡمُؤۡمِنِينَ فَاعۡتَبِرُواْ يَٰٓأُوْلِي الۡأَبۡصَٰرِ ۝٢

“သူတို့သည် သူတို့၏နေအိမ်များကို သူတို့၏ လက်များဖြင့်သာမက မုအ်မင်န်များ၏ လက်များဖြင့်လည်း ဖျက်ဆီးနေကြသည်။ သို့ဖြစ်ရာ အို–ဉာဏ်ရှင်အပေါင်းတို့၊ အသင်တို့သည် သင်ခန်းစာယူကြပါ။” (ကုရ်အာန်–၅၉း၂)

မိမိအိမ်ကို ပြုပြင်ဖို့ မွတ်စ်လင်မ်တစ်ယောက် သတိထားဆောင်ရွက်ရမည့် အချက်တချို့ရှိပါသည်။

**၁။** ကိုယ်တိုင်နှင့် မိသားစုကို ငရဲမီးမှ ကာကွယ်ခြင်း။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُواْ قُوٓاْ أَنفُسَكُمۡ وَأَهۡلِيكُمۡ نَارٗا وَقُودُهَا ٱلنَّاسُ وَٱلۡحِجَارَةُ عَلَيۡهَا مَلَٰٓئِكَةٌ غِلَاظٞ شِدَادٞ لَّا يَعۡصُونَ

ٱللَّهَ مَآ أَمَرَهُمۡ وَيَفۡعَلُونَ مَا يُؤۡمَرُونَ ٦

“အို–အီမာန် ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အသင်တို့ကိုယ်ကို သာမက အသင်တို့၏ အိမ်သူအိမ်သားများ ကိုလည်း (ငရဲ)မီးမှ ကယ်တင်ကြပါ။ ထိုမီး ၏ လောင်စာသည် လူများနှင့် ကျောက်တုံးများ ဖြစ်ကြသည်။ ထိုမီးသည် အကြင်နာ ကင်းမဲ့သော၊ စိတ်ဓာတ်ခက်ထန်သော၊ အလွန်ပြင်းထန်သော ကောင်းကင်တမန်များ (စောင့်ကြပ်လျက်)ရှိနေသည်။ သူတို့သည် အလ္လာဟ်အရှင်မြတ်ကို အရှင်မြတ်က သူ တို့အား ပေးတော်မူထားသည့် အမိန့်တော်နှင့်ပတ်သက်၍ မဖီဆန်ကြသည့်အပြင် သူတို့အား အမိန့်ပေးခြင်းခံကြရခြင်းကို (မဆိုင်းမတွ)ပြုလုပ် ဆောင်ရွက်ကြသည်။” (ကုရ်အာန်–၆၆း၆)

**၂။** အိမ်တာဝန်ခံအပေါ် ပေးထားသောတာဝန်သည် စာရင်းစစ်မည့်နေ့ အလ္လာဟ်အရှင် မြတ် ရှေ့တော်တွင် အလွန်ကြီးကျယ်ပါသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင် ဟိဝစလ္လမ်)က မိန့်ကြားတော်မူသည်။ အလ္လာဟ်အရှင်မြတ်သည် တာဝန်ခံတိုင်းကို သူ၏ တာဝန်နှင့်ပတ်သက်၍ မေးမြန်းလိမ့်မည်။ ထိုတာဝန်ကို ထိန်းသိမ်းကျေပွန်ခဲ့သ လော။ သို့တည်းမဟုတ် ဖျက်ဆီးခဲ့သလော။ နောက်ဆုံးတွင် လူသားသည် မိမိအိမ်သူ

အိမ်သားများနှင့်ပတ်သက်၍ မေးမြန်းခံရလိမ့်မည်။ (နစာအီ စုနနလ်ကုဗ်ရာကျမ်း– ၉၁၂၉၊ စွပဟီးဟုလ်ဂျာမေ့အ်ကျမ်း၊ ၁၇၇၄)

**၃။** အိမ်သည် စိတ်ကို ထိန်းသိမ်းသောနေရာ ဖြစ်သည်။ မကောင်းမှုဒုစရိုက်နှင့် လူတို့ရန်မှ ငြိမ်းချမ်းသောနေရာ ဖြစ်သည်။ ဖိသ်နဟ် (ခေါ်) စမ်းသပ်မှုကာလတွင် ရှရီအသ်တရားတော်၏ အမြင်အရ ခိုလှုံရာနေရာ ဖြစ်သည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)က မိန့်တော်မူသည်။ မိမိနှုတ်လျှာကို ထိန်းသိမ်းသူ၊ အိမ်သည် မိမိအတွက် ကျယ်ဝန်းသူ(မလိုအပ်ဘဲ အပြင်မထွက်ခြင်းကို ဆိုလိုသည်)၊ မိမိအပြစ်အပေါ် ငိုကြွေးသူအတွက် ဝမ်းမြောက်ဖွယ်ရာပင် ဖြစ်သည်။ (သွမ်ရာနီ– အလ်မုအ် ဂျမုလ်အောင်ဆသွ်ကျမ်း– နံပါတ် ၂၃၄၀၊ စွပဟီးဟုလ်ဂျာမေ့အ်ကျမ်း၊ ၃၉၂၉)

တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)က မိန့်တော်မူထားပါသေးသည်။ "အလုပ်ငါးခုအနက် တစ်ခုကို လုပ်သူသည် အလ္လာဟ်အရှင်မြတ်၏ တာဝန်အောက်တွင် ရောက်သွားသည်။ ရောဂါသည် တစ်ဦးဦးကို သွားရောက်သတင်းမေးသူ၊ (အလ္လာ့ဟ်လမ်းတွင်) စစ်မက်တိုက်ခိုက်သူအဖြစ် ထွက်သွားသူ၊ ဂုဏ်ပေးလေးစားရန်အတွက် မိမိခေါင်းဆောင်နှင့် တွေ့ဆုံသူ၊ သို့မဟုတ် မိမိအိမ်တွင် ထိုင်နေပြီး လူတွေလည်း သူ့ရန်မှကင်း၊ သူလည်း လူတွေရဲ့ရန်မှ ကင်းသူတို့ ဖြစ်သည်။ (အဟ်မဒ်ကျမ်း ၂၁၀၇၉၊ စွပဟီးအလ်သရ်ဂီးဘ်ဝလ်သရ်ဟီးဘ်ကျမ်း၊ ၃၄၇၁)

တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)က မိန့်ကြားထားပါသေးသည်။ (ဖိသ်နဟ်)စမ်းသပ်မှု ကာလရောက်လျှင် လူသားအတွက် ငြိမ်းချမ်းမှုသည် မိမိအိမ်တွင်သာ နေလိုက်ခြင်းပင် ဖြစ်သည်။" (မွစ်နဒုလ်ဖိရ်ဒေါင်စ်၊ စွပဟီးဟုလ်ဂျာမေ့အ်ကျမ်း၊ ၃၆၄၉)

မွတ်စ်လင်မ်တစ်ဦးသည် အပြင်လောကတွင်ရှိသော ဒုစရိုက်တို့ကို ပြုပြင်ပြောင်းလဲရန် မတတ်စွမ်းနိုင်သောအခါ သူ့မှာခိုလှုံ စရာတော့ ရှိပါသေးသည်။ ထိုထဲကို

ဝင်လိုက်ပါက အကုသိုလ်အလုပ်၊ အကုသိုလ် အကြည့်တို့မှ မိမိကိုယ်ကို ထိန်းသိမ်းနိုင်မည်။ မိမိအိမ်သူအိမ်သားများကို လမ်းသလားခြင်း၊ မလုံမခြုံထွက်လည်ခြင်းတို့မှ ထိန်းသိမ်းနိုင်မည်။ မိမိ သားသမီးများကို မကောင်းသော အဖော်တွေမှ ထိန်းသိမ်းနိုင်မည်။ ထိုနေရာမှာ မိမိအိမ်ပင် ဖြစ်သည်။

**၄။** လူတို့သည် မိမိတို့အချိန်အများစုကို အိမ်အတွင်းမှာ ကုန်ဆုံးစေကြသည်။ အထူးသဖြင့် အပူပြင်းသောနေ့၊ အအေးပြင်းသောနေ့၊ မိုးသည်းသောနေ့၊ နေ့၏အစနှင့်အဆုံးတို့ ဖြစ်သည်။ အလုပ် (သို့မဟုတ်) သင်ပေး သင်ယူ အပြီးမှာလည်း အိမ်၌သာနေလေ့ရှိသည်။ ဤအချိန်များကို ကောင်းသောနေရာ၊ ကုသိုလ်ရမည့်နေရာများတွင် သုံးစွဲရပေမည်။ မဟုတ်လျှင် ဒုစရိုက်နှင့် အကုသိုလ်တို့တွင် ပျက်စီးသွားမည်သာ။

**၅။** အရေးကြီးဆုံးအချက် ဖြစ်သည်။ အိမ်ကို ဂရုစိုက်ခြင်းသည် အစ္စလာမ့်ပတ်ဝန်းကျင်၊ လူ့ဘောင်အဖွဲ့အစည်းတစ်ခု တည်ထောင်ရာတွင် အကြီးမားဆုံးအကြောင်းခံ လှေကား တစ်ခုဖြစ်သည်။ အဘယ့်ကြောင့်ဆိုသော် ပတ်ဝန်းကျင်ဆိုသည်မှာ အိမ်တွေပူးပေါင်းပြီးမှ ဖြစ်လေ့ရှိသည်။ အိမ်တွေသည် ပတ်ဝန်းကျင်အဖွဲ့အစည်းကြီး၏ အုတ်ခဲကလေးများ ဖြစ်သည်။ အိမ်များ စု၍ ရပ်ကွက်ဖြစ်သည်။ ရပ်ကွက်များစု၍ ပတ်ဝန်းကျင် ဖြစ်သည်။ အုတ်ခဲကလေးများ ခိုင်ခံ့မှန်ကန်လျှင် ကျွန်ုပ်တို့၏ ပတ်ဝန်းကျင်ကြီးလည်း အလ္လာ့ဟ်အမိန့်တော်တွေနှင့် ခိုင်ခံ့လိမ့်မည်။ အလ္လာ့ဟ်ရန်သူတို့၏ ဝင်ပေါက်ကို ပိတ်ဆို့ထားပြီး ဖြစ်မည်။ ကောင်းတာတွေပျံ့မည်။ မကောင်းမှုတွေ ဝင်ပေါက်တွေ့မည်မဟုတ်။

မွတ်စ်လင်မ့်အိမ်အတွင်းမှ ပတ်ဝန်းကျင်ဆီသို့ ထွက်မည့်သူတွေသည် ပြုပြင်ပြောင်းလဲရေးသမားများ ဖြစ်ကြမည်။ ခေါင်းဆောင်နိုင်သော ဓမ္မကထိက၊ ပညာတော်

သင်ကျောင်းသား၊ မှန်ကန်သော အနစ်နာခံ သက်စွန့်ကြိုးပမ်းသူ၊ ကောင်းသောဇနီး သည်၊ ပြုစုပျိုးထောင်ကောင်းသော မိခင်နှင့် အခြားပြုပြင်ရေးသမားများ ဖြစ်ကြမည်။

ဤကိစ္စသည် ဤမျှအရေးပါလျှင်၊ ကျွန်ုပ်တို့ အိမ်တွေမှာ ဒုစရိုက်မှုတွေ ပေါ်များနေလျှင်၊ ပေါ့တိပေါ့ပျက် နမော်နမဲ့မှုတွေ စီးမိုးနေလျှင် ကျွန်ုပ်တို့ထံသို့ မေးခွန်း ကြီးတစ်ခု ဦးတည်၍လာပါတော့သည်။

အိမ်ကို အဘယ်အရာများဖြင့် ပြုပြင်မည်နည်း။ စာရှုသူအတွက် အဖြေရှိပါ သည်။ ဤနယ်ပယ်နှင့်ပတ်သက်၍ စေတနာစကား တချို့ရှိပါသည်။ ဤစကားများဖြင့် အကျိုးဖြစ်ထွန်းမည်ဟု အလ္လာဟ်အရှင်မြတ်ထံ မျှော်လင့်မိပါသည်။ မွတ်စ်လင်မ့်အိမ် ကို အသစ်တစ်ဖန် ရှင်သန်စေရန် အစွလာမ့်သားကောင်းများကို အာရုံပြုစေနိုင်မည်ဟု လည်း မျှော်လင့်ပါသည်။

ဤစေတနာစကားများသည် အချက် (၂) ချက်ပေါ်မူတည် လည်ပတ်ပါသည်။ ၁။ ကောင်းတာတွေကို ရှာဖွေရယူခြင်း။ ၂။ မကောင်းတာတွေကို ဖယ်ရှားခြင်း ဖြစ် သည်။ ယခု ဦးတည်ချက်ကို စပါတော့မည်။

## စေတနာစကား(၁)

## အိမ်ဖြစ်မြောက်ရေး။

## ဇနီးသည် ရွေးချယ်မှု ကောင်းခြင်း။

وَاَنْكِحُوا الْاَيَامٰى مِنْكُمْ وَالصّٰلِحِيْنَ مِنْ عِبَادِكُمْ وَاِمَآئِكُمْ ؕ اِنْ يَّكُوْنُوْا فُقَرَآءَ يُغْنِهِمُ اللّٰهُ مِنْ فَضْلِهٖ ؕ وَاللّٰهُ وَاسِعٌ عَلِيْمٌ ﴿٣٢﴾

"ထို့ပြင် အသင်တို့သည် အသင်တို့ထဲမှ ဇနီးခင်ပွန်းမရှိသော ယောကျ်ား၊ မိန်းမ များကိုလည်းကောင်း၊ အသင်တို့၏ ကျွန်၊ ကျွန်မများထဲမှ (ထိမ်းမြားရန်) အရည် အချင်း ရှိသောကျွန်၊ ကျွန်မများကို လည်းကောင်း ထိမ်းမြားပေးကြပါ။ အကယ်၍ သူတို့သည် ဆင်းရဲသားများဖြစ်ကြလျှင် အလ္လာဟ်အရှင်မြတ်သည် သူတို့ကို အရှင်

မြတ်၏ ကျေးဇူး တော်နှင့် ချမ်းသာစေတော်မူမည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် အလွန်ကျယ်ဝန်းစွာ ပေးသနားတော်မူသောအရှင်၊ အကြွင်းမဲ့သိတော်မူသော အရှင်ဖြစ်တော်မူသည်"။ (ကုရ်အာန်–၂၄း၂၇)

အိမ်ထောင်ထူမည့်သူသည် အောက်ပါ စည်းကမ်းချက်များကို ကြည့်၍ ကောင်းသောဇနီးကို ရွေးချယ်သင့်ပါသည်။

"အမျိုးသမီးကို အချက်(၄)ချက်ကြောင့် လက်ထပ်ထိမ်းမြားကြသည်။ (၁)သူ့ဥစ္စာပစ္စည်းကြောင့်၊ (၂)သူ့မျိုးရိုးဂုဏ်ကြောင့်၊ (၃)သူ့လှပမှုကြောင့်၊ (၄)သူ့ သာသနာကြောင့်တို့ ဖြစ်သည်။ သို့ဖြစ်ရာ သင်သည် သာသနာကိုင်းရှိုင်းသူကို ရွေးချယ်ပါ။ သင်သည် မင်္ဂလာအပေါင်း ရရှိလိမ့်မည်။" (ဗုခါရီကျမ်းနှင့်မွတ်စ်လင်မ်ကျမ်း)

"လောကတစ်ခုလုံးသည် အကျိုးခံစားစရာပင် ဖြစ်သည်။ လောက၏ အကျိုးခံစားစရာများထဲတွင် အကောင်းဆုံးမှာ ကောင်းမြတ်သော ဇနီးမိန်းမပင် ဖြစ်သည်။ "(မွတ်စ်လင်မ်ကျမ်း–၁၄၆၈)

"သင်သည် ကျေးဇူးသိတတ်သော နှလုံးသားထားရှိပါ။ သတိရတသသော နှုတ်လျှာထားရှိပါ။ ထို့ပြင် သင့်နောင်ရေးကို ကူညီပံ့ပိုးမည့် အီမာန်သက်ဝင်ယုံကြည်သူ ဇနီးသည်ထားရှိပါ။"

(အဟ်မဒ်ကျမ်း–၂၂၄၃၇၊ စိလ်စလသုလ်စွဟီးဟာဟ်ကျမ်း၊ ၂၁၇၆)

အခြားဆင့်ပြန်ချက်တွင် ဤသို့လာရှိသည်။ "အသင်၏လောကီ၊ လောကုတ္တရာ အရေးကို ကူညီပံ့ပိုးပေးသည့် ဇနီးကောင်း တစ်ဦးသည် လူများသိမ်းဆည်း သိုလှောင်ထားသမျှ အရာများအနက် အကောင်းဆုံးဖြစ်သည်။" (ဗိုင်ဟကီ–ရှုအဗုလ်အီမာန်ကျမ်း–၄၁၁၆၊ စွဟီးဟုလ်ဂျာမေ့အ်ကျမ်း၊ ၄၄၀၉)

"သင်တို့သည် လင်ကို အချစ်ကြီးသော ကလေးအလွန်မွေးသော မိန်းမကို လက်ထပ်ကြပါ။ အကြောင်းမှာ ငါကိုယ်တော်သည် ကိယာမသ်နေ့တွင် သင်တို့ကို အကြောင်းခံ၍ ငါကိုယ်တော့် နောက်လိုက်သားတွေ များပြားကြောင်း အခြားတမန်

တော်များအပေါ် မုချ ဝဲ့ကြွားဂုဏ်ယူတော်မူမည်။” (အဟ်မဒ်ကျမ်း– ၁၂၆၁၃၊ အိရ်ဝါးအ်ကျမ်း ၁၇၈၄ တွင် ရှိဳင်းခ်အလ်ဘာနီက စွဟီးဟ်ဟု ပြောထားပါသည်။)

“သင်တို့သည် အပျိုများကို (ဦးစားပေး)လက်ထပ်ကြ။ သူတို့သည် သားအိမ်ပိုသန့်သည်။ နှုတ်ပိုချိုသည်။ အနည်းငယ်နှင့်လည်း ကျေနပ်ကြသည်။” (အိဗ်နုမာဂျဟ်ကျမ်း– နံပါတ် ၁၈၅၁၊ စွဟီးဟ်အိဗ်နုမာဂျာဟ်ကျမ်း၊ ၁၅၀၈)

အခြားဆင့်ပြန်ချက်တွင် “လှည့်စားမှုမာယာလည်း ပိုနည်းသည်” ဟုလည်း လာရှိသည်။ (စွဟီးဟုလ်ဂျာမေ့အ်ကျမ်း၊ ၄၀၅၃)

အမျိုးသမီးကောင်းသည် ကံကောင်းခြင်း(၄)ခုအနက် တစ်ခုဖြစ်သလို အမျိုးသမီးဆိုးသည် ကံဆိုးခြင်း(၄)ခုအနက် တစ်ခု ဖြစ်ပေသည်။ ထိုအကြောင်း မှန်ကန်သော ဟဒီးဆ်တော်တော်တွင် လာရှိသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)က မိန့်တော်မူသည်။ “နဖူးစာ ကောင်းခြင်းတွင် အမျိုးသမီးကောင်းလည်း ပါဝင်သည်။ သူမကို မြင်ရသောအခါ နှစ်သက် မြတ်နိုးမိသည်။ သင်သည် သူမအနားမှာ မရှိလျှင်လည်း သူမကိုယ်ခန္ဓာနှင့် အသင့်ပစ္စည်းတို့ကို စိတ်ချနိုင်သည်။ ထို့ပြင် နဖူးစာဆိုးခြင်းတွင် မိန်းမဆိုးလည်း ပါဝင်သည်။ သူမကို မြင်ရသောအခါ စိတ်ဆင်းရဲရသည်။ သူမသည် သင်နှင့်ပတ်သက်၍လည်း မကောင်းပြောမည်။ သူမအနားမှာ သင်မရှိလျှင် သူမခန္ဓာကိုယ်နှင့် သင့်ပစ္စည်းများကို စိတ်မချနိုင်ပေ။ (မုစ်သဒ်ရက်ဟာကင်မ်၊ ၂၆၈၄)

ထိုနည်းတူစွာ မွတ်စ်လင်မ်အမျိုးသမီးကို လက်ထပ်ရန် ကမ်းလှမ်းလာသောသူနှင့်ပတ်သက်၍လည်း လေ့လာဆန်းစစ်ရန် လိုပေသည်။ သူ့တွင် အောက်ဖော်ပြမည့် စံနှုန်းများရှိရန် လိုပေသည်။ သူ၏ ကိုယ်ကျင့်တရားနှင့် ဘာသာရေးကိုင်းရှိုင်းမှုကို သင်တို့ နှစ်သက်သဘောကျသော ပုဂ္ဂိုလ်တစ်ဦးတစ်ယောက် သင်တို့ထံလာပါက သူနှင့် လက်ထပ်ထိမ်းမြားပေးလိုက်ကြ။ သို့မဟုတ်လျှင် မြေကမ္ဘာတွင် ကြီးကျယ်သော ပျက်စီးမှုများဖြစ်လိမ့်မည်။ ” (အိဗ်နုမာဂျဟ်ကျမ်း– ၁၉၅၇၊ စွဟီးဟုလ်ဂျာမေ့အ်ကျမ်း၊ ၂၇၀)

အိမ်မပျက်စီးရန် အထက်က အကြောင်းအရာများကို နက်နဲစွာ သုံးသပ်ရမည်။ ၎င်းနှင့် ပတ်သက်သည့် အသိပညာများကို ရှာဖွေဆည်း ပူးထားရမည်။ ကောင်းသော အမျိုးသားတစ်ဦးသည် ကောင်းသော အမျိုးသမီးတစ်ဦးနှင့် ပူးပေါင်း၍ ကောင်းသော အိမ်တစ်လုံးကို တည်ဆောက်ကြသည်။ မြေသြဇာကောင်းလျှင် အပင်ကောင်း၊ အသီး ကောင်းထွက်သည်။ ညံ့လျှင်တော့ အညံ့သာ ထွက်မည်။

**စေတနာစကား(၂)**

ဇနီးသည် ကောင်းလျှင် မင်္ဂလာပင်။ အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးပင်။ မကောင်းလျှင်တော့ အိမ်ထောင်ဦးစီးက သူမကို ပြုပြင်ရမည်။ အခြေအနေအချို့တွင် ဤသို့ ဖြစ်တတ်သည်။ လုံး၀ သာသနာကိုင်းရှိုင်းမှု မရှိသော အမျိုးသမီးကို လက်ထပ် ခဲ့ခြင်း။ အစပိုင်းတွင် သူကိုယ်တိုင် သာသနာမကိုင်းရှိုင်းခဲ့လို့ ဖြစ်သည်။ သို့မဟုတ် အမျိုးတွေ၏ ဖိအားပေးမှုကြောင့် လက်ထပ်ခဲ့သည်။ ထိုအခါ ပြုပြင်ခြင်းကို အားသွန် ခွန် စိုက်လုပ်ရတော့သည်။

ပထမအချက်အနေနှင့် “ ဟိဒါယသ်” လမ်းမှန်ရရှိမှုသည် အလ္လာ့ဟ်ဘက်မှ ဖြစ်သည်ကို သိထားရမည်။ ပြုပြင်ပေးမည့်သူ အစစ်မှာ အလ္လာဟ်အရှင်မြတ် ဖြစ် သည်။ တမန်တော်ဇကရီယာ အပေါ် ရှိသော ကျေးဇူးကို အလ္လာဟ်အရှင်မြတ်က ဤသို့ ထုတ်ဖော်သည်။ وَأَصْلَحْنَا لَهُ زَوْجَهُ

“ထို့ပြင် ငါအရှင်မြတ်သည် ၎င်း၏ ဇနီးကြင်ရာကို နေသားတကျဖြစ် အောင် ပြုပြင်ပေးတော်မူခဲ့သည်။” (ကုရ်အာန် ၂၁း၉၀)

အာယသ်တော်၏ ဆိုလိုချက်မှာ ခန္ဓာကိုယ်အရ ပြုပြင်ပေးခြင်း သို့မဟုတ် သာသနာရေးအရ ပြုပြင်ပေးခြင်းဟူ၍ နှစ်မျိုးစလုံး ဖြစ်နိုင်သည်။ အိဗ်နအဗ္ဗာစ် رضي الله عنه က

မိန့်သည်။ "သူမသည် ကလေးမမွေးနိုင်သော အမြုံဖြစ်သည်။ သို့သော် အလ္လာဟ်အရှင်မြတ်က ပြုပြင်ပေးလိုက်ရာ ကလေးမွေးနိုင်သွားသည်။" အသွာအ်ﷺက မိန့်ဆိုသည်။ "သူမသည် စကားသိပ်များသည်။ ထိုအကျင့်ကို အလ္လာဟ်အရှင်မြတ်က ပြင်ပေးလိုက်သည်။" (အိဗ်နုကဆီးရ်၏ သက်ဖ်စီးရ်ကျမ်း၊ အတွဲ ၃ စာ ၁၉၄)

## ဇနီးသည်ကို ပြုပြင်ပေးရမည့် နည်းလမ်းတချို့

- အလ္လာဟ်အရှင်မြတ်ကို ကိုးကွယ်ဆည်းကပ်ရသည့် ပုံစံအမျိုးမျိုးကို ပြုပြင်ပေးရန် ဂရုစိုက်ခြင်း။ (ထိုအကြောင်း ရှေ့တွင်လာလိမ့် မည်။)
- သူမ၏အီမာန်ကို မြှင့်တင်ပေးရန် ကြိုးစားခြင်း။ ဥပမာ...သဟာဂျ်ဂျုဒ် ဖတ်ရန် နှိုးဆော်ခြင်းဖြင့်၊ ကျမ်းတော်မြတ်ကုရ်အာန်ဖတ်ရန် နှိုးဆော်ခြင်းဖြင့်၊ သူ့အချိန် သူ့နေရာနှင့်သူ ဖတ်ရသော ဇိကိရ်ဒုအာများကို ကျက်မှတ်စေခြင်းဖြင့်၊ စွဒကဟ်အလှူအတွက် နှိုးဆော်ခြင်းဖြင့်၊ အကျိုးပြုသော အစ္စလာမ့်စာအုပ်များကို ဖတ်ရှုလေ့လာစေခြင်းဖြင့်၊ အကျိုးရှိသော အစ္စလာမ့်အခွေများကို နားထောင်စေ ခြင်းဖြင့်၊ ထိုသို့နားထောင်နိုင်ရန် စီမံပေးခြင်းဖြင့်၊ သာသနာကိုင်းရှိုင်းသော အဖော်ကောင်း၊ မိတ်ဆွေကောင်းများကို ရွေးချယ်ပေးပြီး သူမတို့နှင့် အပြန်အလှန် ဟဒီးဆ်တော်တွေ ဆွေးနွေးစေခြင်းဖြင့်၊ သူမထံရောက်နိုင်မည့် မကောင်းမှုတံခါး အားလုံးကို ပိတ်ဆို့ခြင်း ဖြင့်၊ အထူးသဖြင့် မကောင်းသော မိန်းမများနှင့် မပေါင်းမိစေ၍၊ မကောင်းသော နေရာများကို မသွားမိစေ၍ သူမတို့၏ အီမာန်ကို မြှင့်တင်ပေးရန် ကြိုးစားရမည်။

## စေတနာစကား(၃)

## အိမ်တွင်း အီမာန်ရေးရာများ

အိမ်ကို အလ္လာဟ်အရှင်မြတ်အား သတိရသည့် နေရာဖြစ်အောင် လုပ်ပါ။ တမန်တော်မြတ်ﷺ မိန့်တော်မူသည်။ "အလ္လာဟ်အရှင်မြတ်ကို သတိရသည့်အိမ်နှင့် သတိမရသည့်အိမ်၏ ပမာသည် ရှင်သူနှင့် သေသူတို့၏ ပမာကဲ့သို့ ဖြစ်သည်။" (မွတ်စ်လင်မ်ကျမ်း-၇၇၉)

အိမ်ကို ဇိကိရ်အမျိုးမျိုးလုပ်သော နေရာဖြစ်အောင် လုပ်ရမည်။ နလုံးသားဖြင့် လုပ်သော ဇိကိရ်၊ နှုတ်လျှာဖြင့်လုပ်သော ဇိကိရ်၊ သို့မဟုတ် စွလာသ်များဖတ်ခြင်း၊ ကုရ်အာန်ဖတ်ခြင်း၊ သာသနာ့ပညာ ဆွေးနွေးခြင်း၊ ဉာသနာ့စာအုပ်အမျိုးမျိုး ဖတ်ခြင်း စသည့် ဇိကိရ်တို့ဖြင့် အိမ်ကို စည်ကားအောင် လုပ်ရမည်။

များစွာသော မွတ်စ်လင်မ်တို့၏ အိမ်များသည် အလ္လာဟ်အရှင်မြတ်ကို တသမူ မရှိသောကြောင့် သေနေကြသည်။ ဟဒီးဆ်တော်တွင် ထိုသို့သော အိမ်ကို အိမ်သေဟု ညွှန်းဆိုထားသည်။ အကယ်၍ ထိုအိမ်တွင် ရှိုင်သွာန်မိစ္ဆာ၏ အသံများဖြစ်သော သီချင်း၊ တီးလုံး၊ တီးဝိုင်းတို့၊ အတင်းပြောခြင်း၊ ကုန်းချောကုန်းတိုက်ခြင်း စသည်တို့ရှိပါက ထိုအိမ်သည် အိမ်သေထက်ပင် ပိုဆိုးသောကြောင့် မည်သို့သော အိမ်မျိုးဖြစ်မည် နည်း။

အကယ်၍ ထိုအိမ်သည် ဟရာမ်ဖြစ်သော ရောနှောမှုများ (သူစိမ်းတစ်ရံဆံ အမျိုးသမီး၊ အမျိုးသားများ ရောနှောခြင်း၊) အမျိုးတော်စပ်မှုမရှိဘဲ အိမ်ထဲကို တံခါး မရှိ၊ ဓားမရှိ ဝင်ထွက်သွားလာမှုများတည်းဟူသော ပြစ်မှုများဖြင့် ပြည့်နေလျှင် ထိုအိမ် သည် မည်သို့သော အိမ်မျိုးဖြစ်မည်နည်း။ ဤသို့အခြေအနေရှိသည့် အိမ်မျိုးတွင် ကောင်း ကင်တမန်တွေ မည်ကဲ့သို့ ဝင်ကြမည်နည်း။ ထို့ကြောင့် အို-စာဖတ်မိတ်ဆွေ၊ မိမိ၏ အိမ်ကို အမျိုးမျိုးသော ဇိကိရ်ဖြင့် ရှင်သန်အောင်လုပ်ပါ။

## စေတနာစကား(၄)

## သင်တို့၏ အိမ်များကို ဝတ်ပြုရာနေရာ လုပ်ကြပါ။

အိမ်ကို အိဗာဒသ်လုပ်သည့်နေရာ ဖြစ်အောင်လုပ်ဖို့ လိုပေသည်။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်။

وَاَوۡحَيۡنَاۤ اِلٰى مُوۡسٰى وَاَخِيۡهِ اَنۡ تَبَوَّاٰ لِقَوۡمِكُمَا بِمِصۡرَ بُيُوۡتًا وَّاجۡعَلُوۡا بُيُوۡتَكُمۡ قِبۡلَةً وَّاَقِيۡمُوا الصَّلٰوةَ ‌ؕ وَبَشِّرِ

الۡمُؤۡمِنِيۡنَ ﴿۸۷﴾

“ထို့ပြင် ငါအရှင်မြတ်သည် (တမန်တော်)မူစာနှင့် သူ၏အစ်ကိုထံသို့ အမိန့်ချ မှတ်တော်မူခဲ့သည်- “အသင်တို့နှစ်ဦး သည် အသင်တို့၏ အမျိုးသားများအတွက် အီဂျစ်ပြည်၌ပင် နေအိမ်များအား သတ်မှတ်ကြပါ။ ၎င်းနောက် အသင်တို့သည် အသင် တို့၏ နေအိမ်များအား စွလာသ်ဝတ်ပြုရာ ဌာနများအဖြစ် ပြုလုပ်ကြပါ။ ၎င်းနောက် အသင်တို့သည် စွလာသ်ဝတ်ပြုမှုကို တည်ဆောက်ကြပါ။ ထို့ပြင် အသင်သည် မုအ်မင်နိယုံကြည်သူများအား (ဒုက္ခများမှ မကြာမီ လွတ်ကင်းတော့မည့်အကြောင်း) ဝမ်းမြောက်ဖွယ် သတင်းကောင်းပေးလိုက်ပါ။” (ကုရ်အာန်- ၁၀း၈၇)

အိဗ်နုအဗ္ဗာစ်رضی اللہ عنہကမိန့်သည်။ “အိမ်တွေကို ဝတ်ပြုရာနေရာ သတ်မှတ်ဖို့ အမိန့်ပေးခြင်းခံရသည်။” (သက်ဖ်စီးရ်သွက်ဗ်ရီကျမ်း၊ အတွဲ ၁၁ စာ ၁၅၃)

အိဗ်နုကဆီးရ်က မိန့်သည်။ ဤသည် ဖိရ်အောင်(ဖာရို)နှင့် ၎င်း၏ နောက်လိုက်သားများ၏ ဒုက္ခပေးမှု ပြင်းထန်လာသောအခါ စွလာသ်များများဝတ်ပြုဖို့ သူတို့ကို အမိန့်ပေးခြင်း ဖြစ်ဟန်တူသည်။ (အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်သည်။) ထိုနည်းတူစွာ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူထားသည်။

يٰۤاَيُّهَا الَّذِيۡنَ اٰمَنُوا اسۡتَعِيۡنُوۡا بِالصَّبۡرِ وَالصَّلٰوةِ ‌ؕ

“အို–အီမာန် ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် သည်းခံခြင်း၊ စွလာသ်ဝတ်ပြုခြင်းတို့ဖြင့် (အရှင်မြတ်ထံတွင်) အကူ အညီ တောင်းခံကြပါ။” (ကုရ်အာန်–၂း ၁၅၃) ဟဒီးဆ်တော်တွင် ဟုဇိုင်ဖာဟ်သခင်ထံမှ ဆင့်ပြန်ချက် လာရှိသည်။ “တမန်တော်မြတ်(ဆွ)သည် အခက်အခဲတစ်ခု ကြုံပါက စွလာသ်ဝတ်ပြုလေ့ရှိသည်။ ”(အဗူဒါဝူးဒ်ကျမ်း–၁၁၂၄) (သက်ဖ်စီးရုလ်ကုရ်အာနိလ်အဇီးမ်ကျမ်း၊ တွဲ ၄ စာ ၂၅၂)

ဤသည် အိမ်များတွင် စွလာသ်ဝတ်ပြုရန် မည်မျှအရေးပါ ကြောင်းကို ထင်ရှားစေပါသည်။ အင်အားအရှိန်အဝါ မရှိသော အချိန်မျိုးတွင် ပို၍ပင် လိုအပ်ပေသည်။ ထိုနည်းတူ တချို့နေရာများတွင် ကာဖိရ်များရှေ့တွင် မွတ်စ်လင်မ်များ စွလာသ်ဝတ်ပြုရန် ခက်ခဲမှုများရှိသည်။ ဤအကြောင်းနှင့်စပ်လျဉ်း၍ မရ်ယမ်သခင်မ၏ ဝတ်ပြုရာကို သတိရသင့်ပေသည်။ သူအိဗာဒသ်လုပ်သည့် နေရာ အကြောင်းကို အလ္လာဟ်အရှင်မြတ်ကပင် မိန့်တော်မူသည်။

كُلَّمَا دَخَلَ عَلَيْهَا زَكَرِيَّا الْمِحْرَابَ ۙ وَجَدَ عِنْدَهَا رِزْقًا ۖ قَالَ يٰمَرْيَمُ اَنّٰى لَكِ هٰذَا ؕ

“(တမန်တော်)ဇကရိယာသည် (မရ်ယမ်ကို ကြည့်ရှုစောင့်ရှောက်ရန်) သူမ၏ အဆောင်ထဲသို့ ဝင်သည့်အခါတိုင်း သူမ၏ အနီးတွင် စားစရာများကို တွေ့ရှိရသည်။” (ကုရ်အာန်–၃း၃၇)

စွဟာဗဟ်များသည် ဖရည်သ္ဂစွလာသ်မှလွဲ၍ ကျန်စွလာသ်များကို အိမ်တွင် စွဲစွဲမြဲမြဲ ဝတ်ပြုလေ့ရှိကြသည်။ ထိုအကြောင်းကို ပေါ်လွင်စေသည့် ဖြစ်ရပ်တစ်ခု တင်ပြပါမည်။ မဟ်မူဒ်ဗင်န်ရဗီးအ် အန်စွာရီက ဆင့်ပြန်ပါသည်။ (ဗဒ်ရ်စစ်ပွဲတွင် ပါဝင်ခဲ့သော အန်စွာရီ စွဟာဗဟ်တစ်ပါး ဖြစ်သည့်) အိသ်ဗာန်ဗင်န်မာလိက်رضي الله عنهက တမန်တော်မြတ် (ဆွ)ထံ လာရောက် လျှောက်ထားသည်။ အို–အလ္လာဟ့်တမန်တော်၊ ကျွန်တော့်မျက်လုံး မကောင်းတော့ပါဘူး။ ကျွန်တော်၏ အမျိုးသားတွေကို ကျွန်တော် ဦးဆောင်ပြီး စွလာသ် ဝတ်ပြုပါသည်။ မိုးရွာလျှင် ရေကြီးသောကြောင့် သူတို့၏ ဝတ်

ပြုရာနေရာကို သွားပြီး ဦးဆောင်ကာ စွလာသ်ဝတ် မပြုနိုင်ပါဘူး။ ထို့ကြောင့် အို–အလ္လာ့ဟ်တမန်တော်၊ ကိုယ်တော့်ကို ကျွန်တော့်အိမ်လာပြီး စွလာသ်ဝတ်ပြုစေချင်ပါသည်။ ကိုယ်တော် ဝတ်ပြုလိုက်သည့် နေရာကို ကျွန်တော်က ဝတ်ပြုရာနေရာအဖြစ် သတ်မှတ်ချင်ပါသည်။ ဆင့်ပြန်သူက ပြောပြသည်။ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)က သူ့ကို အလ္လာဟ်အလိုတူလျှင် ငါကိုယ်တော်လာခဲ့မည်ဟု အဖြေပေးလိုက်သည်။ အိသ်ဗာန်ﷺက ပြောပြသည်။ နံနက်ခင်း နေအလွန်မြင့်တဲ့

အခါ တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)နှင့် အဗူဗကရ်ﷺသည် အိမ်ဝင်

ခွင့်တောင်းပါသည်။ ကျွန်ုပ်ကလည်း ဝင်ခွင့်ပြုလိုက်ပါသည်။ အိမ်ထဲဝင်ပြီး မထိုင်မီမှာပင် ကိုယ်တော်က "ငါကိုယ်တော့်ကို မည့်သည် နေရာမှာ စွလာသ်ဝတ်ပြုစေချင်သလဲ"ဟု ကျွန်တော့်ကို မေးသည်။ ကျွန်ုပ်က အိမ်၏ ထောင့်တစ်ထောင့်ကို ညွှန်ပြလိုက်ပါသည်။ ထိုအခါ တမန်တော်မြတ် (ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)က သက်ဗီရ်ဆို၍ ရပ်လိုက်သည်။ ကျွန်ုပ်တို့လည်း လိုင်းစီပြီး လိုက်ရပ်ကြသည်။ ကိုယ်တော်က(၂)ရကအသ် ဝတ်ပြုတော် မူပြီး စလာမ်လှည့်သည်။ (ဗုခါရီကျမ်း–၄၂၅)

အိဗ်နုဟဂျရ်က ဤဟဒီးဆ်တော်မှ ကောက်နုတ်ချက်တင်ပြပါသည်။ စွလာသ်ဝတ်ပြုရန် အိမ်၌ နေရာသတ်မှတ်ဖို့ ဟဒီးဆ်တော်တွင် လာရှိထားပါသည်။ စွလာသ်ဝတ်ပြုရန် နေရာတစ်ခုတည်းကို အမြဲသတ်မှတ်ထားခြင်း မပြုရန် တားမြစ်ထားသည့် အဗူဒါဝူးဒ်ကျမ်းမှ ဟဒီးဆ်တော်ကို ပြစားဖို့အတွက် နေရာသတ်မှတ်ခြင်းနှင့် ဆိုင်သည်ဟု မှတ်ယူရမည်။ အိမ်တွင် စွလာသ်ဝတ်ပြုရန် သတ်မှတ်လိုက်သည့် နေရာအပေါ် ဝကဖ်၏အမိန့်တွေ မသက်ရောက်ပါဘူး။ "မတ်စ်ဂျိဒ်" နှင့်ဗလီဟုခေါ်ခြင်း သက်သက်မျှသာ ဖြစ် သည်။ (ဖသ်ဟွလ်ဗာရီကျမ်း–၁/၅၁၉)

## စေတနာစကား(၅)

## အိမ်သူအိမ်သားများကို အီမာန်အပေါ် လေ့ကျင့်ပေးခြင်း။

အာအိရှဟ်ﷺက ဆင့်ပြန်ပြောပြသည်။ တမန်တော်မြတ်(ဆွလ္လလ္လာဟုအလိုင်ဟိဝ စလ္လမ်)သည် ညမှာထ၍ စွလာသ်ဝတ်ပြုလေ့ရှိသည်။ ဝိသိရ်ဝတ်ပြုသော အချိန် ရောက်လျှင် ကိုယ်တော်က မိန့်သည်။ အို- အာအိရှဟ်၊ ထပြီး ဝိသိရ်ဝတ်ပြုလိုက်ပါဦး တဲ့။ (မွတ်စ် လင်မ်ကျမ်း ၇၄၄)

တမန်တော့်ဩဝါဒတော် နောက်တစ်ခုလာရှိပါသည်။ အလ္လာဟ်အရှင်မြတ် သည် အကြင်သူကို သနားပါစေ၊ သူသည် ညမှာထ၍ စွလာသ်ဝတ်ပြုသည်။ ပြီးလျှင် မိမိဇနီးကို စွလာသ်ထဝတ်ပြုရအောင် နှိုးသည်။ သူမက ထဖို့ငြင်းဆန်လျှင် သူမ မျက် နှာအပေါ် ရေဖြင့် ပက်ဖြန်းသည်။ (အဟ်မဒ်ကျမ်း-၇၄၁၀၊ အဗူဒါဝူးဒ်ကျမ်း-၁၃၀၈၊ နစာအီကျမ်း ၁၆၁၀၊)

စွဒကဟ်အလှူလုပ်ရန် အိမ်တွင် မိန်းမများကို တိုက်တွန်းခြင်းသည်လည်း အီမာန်ကို တိုးတက်စေပါသည်။ ဤသည် တမန်တော်မြတ်(ဆွ)က တိုက်တွန်းခဲ့သော ကိစ္စကြီးလည်းဖြစ်သည်။ "အို- အမျိုးသမီးအပေါင်းတို့၊ အလှူလုပ်ကြကုန်၊ အသင်မတို့ သည် ငရဲသားများတွင် အများစုဖြစ်နေကြသည်ကို ငါကိုယ်တော် မြင်ခဲ့သည်။" (ဗုခါရီ ကျမ်း-၁၄၆၂၊ မွတ်စ်လင်မ်ကျမ်း-၇၉)

ယခင်က အိမ်များတွင် ပုံးများ၊ အိတ်များ ထားလေ့ရှိသည်။ ပုံးထဲ၊ အိတ်ထဲ တွင် ထည့်သမျှ အားလုံးကို ဆင်းရဲသားများ အတွက် ရည်ရွယ်သည်။ (ထိုသို့လုပ် လိုက်ခြင်း ဖြင့်လည်း လှူဒါန်းရာတွင် အပန်းမကြီးတော့ပေ။ လှူလည်း လှူဖြစ်သွား သည်။) အိမ်သူအိမ်သားများက အိမ်ဦးစီးကို ကောင်းသော ကျင့်ကြံအားထုတ်မှုများ လုပ်သည် ကို မြင်လာသောအခါ ဤသည် သူတို့အတွက် နှိုးဆော်မှုတစ်ခု ဖြစ်သွားပေ မည်။ အိမ်ထဲရှိ ခေါင်းဆောင်က အကယ်၍ တစ်လမှာ သုံးရက်နှင့်၊ ကြာသပတေး၊

တနင်္လာ၊ အာရှုရာ၊ အာရဖသ်ရက်များတွင် ဥပုဒ်စောင့်မည်။ ရှအ်ဗာန်နှင့် မုဟာရ်ရမ်လများတွင် ဥပုဒ်စောင့်မည်ဆိုလျှင် အိမ်သူအိမ်သားများအတွက်လည်း နမူနာတစ်ခု၊ တိုက်တွန်းမှု တစ်ခုဖြစ်ပေမည်။

**စေတနာစကား(၆)**

အိမ်နှင့်ဆိုင်သည့် စွန္နသ်တော်လာ ဇိကိရ်၊ ဒုအာများကို ကျက်မှတ်ကျင့်သုံးခြင်းကို ဂရုတစိုက်ဆောင်ရွက်ခြင်း။

နမူနာများပြရမည်ဆိုလျှင်...

**၁။ အိမ်ဝင်သည့်အခါ ဖတ်ရသည့် ဇိကိရ်။**

အိမာမ်မွတ်စ်လင်မ်က မိမိစွဟီးဟ်ကျမ်းတွင် ဖော်ပြထားသည်။ ဂျာဗိရ်ဗင်န်အဗ်ဒုလ္လာဟ်(ရသွေ့)က ဆင့်ပြန်ထားသည်။ တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ “လူတစ်ယောက်သည် မိမိအိမ်ထဲ ဝင်သောအခါနှင့် အစာစားသောအခါ အလ္လာဟ်အရှင်မြတ်၏ နာမတော်ကို တသပါက ရှိုင်သွာန်က (မိမိအပေါင်းအဖော်များကို) ဤသို့ ပြောသည်။ (အချင်းတို့) သင်တို့အတွက် သည်နေရာမှာ ညအိပ်ခိုရာလည်း မရှိတော့ပေ။ ညစာလည်း မရှိတော့ပေ။ အကယ်၍ ထိုပုဂ္ဂိုလ်က အိမ်သို့ဝင်သောအခါ အလ္လာဟ့်ကို မတသပါက ရှိုင်သွာန်က ပြောသည်။ (အချင်းတို့) သင်တို့အတွက် တည်းခိုစရာရော ညစာပါ ရသွားပြီ။ ”(မွတ်စ်လင်မ်ကျမ်း- ၂၀၁၈)

**၂။အိမ်မှ ထွက်သောအခါ ဖတ်ရသည့် ဇိကိရ်တော်များ**

အိမာမ်အဗူဒါဝူးဒ်က မိမိစုနန်ကျမ်းတွင် ဖော်ပြထားသည်။ အနတ်စ်ဗင်န်မာလိစ်က်(ရသွေ့)က ဆင့်ပြန်ထားသည်။ တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ လူတစ်ယောက်သည် မိမိအိမ်မှ ထွက်၍

بِسْمِ اللّٰهِ تَوَكَّلْتُ عَلَى اللّٰهِ وَلاَحَوْلَ وَلاَقُوَّةَ إِلاَّ بِاللّٰهِ

ဟု ဖတ်မည်ဆိုလျှင် သူ့ကို ဤသို့ ပြောခံရသည်။ သင့်အတွက် လုံလောက်သွားပြီ။ သင်လမ်းမှန်ရသွားပြီ။ သင်ထိန်းသိမ်းခံရပြီ။ ထို့နောက် ရှိုင်သွာန်က သူ့အနားမှ ခွာသွားသည်။ ထိုအခါ အခြားရှိုင်သွာန်က ထိုရှိုင်သွာန်ကို ပြောသည်။ လမ်းမှန်ရ၊ လုံလောက်ခံရ၊ ထိန်းသိမ်းခံရပြီးသော လူကို သင်အဘယ်သို့ နှောက်ယှက်မည်နည်း။" (အဗူဒါဝူးဒ်ကျမ်း- နံပါတ် ၅၀၉၅)

**၂။ တံပူစားခြင်း။**

အိမာမ်မွတ်စ်လင်မ်က မိမိ၏ စွဟီးဟ်ကျမ်းတွင် ဆင့်ပြန်သည်။ အာအိရှဟ် (ရသွေ့)က ပြောပြသည်။ "တမန်တော်မြတ်ﷺသည် အိမ်သို့ ဝင်သောအခါ တံပူစားခြင်းကို အလျှင် ပြုလုပ်တော်မူသည်။"(မွတ်စ်လင်မ်ကျမ်း-၄၄)

**စေတနာစကား(၇)**

**ရှိုင်သွာန်ကို မောင်းထုတ်ရန်အတွက် စူရဟ်ဗကရဟ်ကို အမြဲဖတ်ခြင်း။**

ဒါနှင့်ပတ်သက်၍ ဟဒီဆ်တော် အများအပြားရှိသည်။ တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ သင်တို့ အိမ်များကို သင်္ချိုင်း မလုပ်ကြနဲ့။ ရှိုင်သွာန်သည် စူရဟ်ဗကရဟ်ဖတ်သော အိမ်မှ ထွက်ပြေးလေသည်။ (မွတ်စ်လင်မ်ကျမ်း-၂/၁၈၈၊ ဟဒီးဆ် နံပါတ်-၇၈၀)

တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ သင်တို့သည် အိမ်များတွင် စူရဟ်ဗကရဟ်ကို ဖတ်ကြ။ စူရဟ်ဗကရဟ် ဖတ်သော အိမ်ကို ရှိုင်သွာန်မဝင်ပါ။ (ဟာကီမ် ကျမ်း-၁/၅၆၁)(စွဟီးဟုလ်ဂျာမိအ်ကျမ်း-၁၁၇၀)

စူရဟ်ဗကရဟ်၏ နောက်ဆုံးနှစ်အာယသ်၏ ထွတ်မြတ်မှုနှင့် ထိုအာယသ်နှစ်ခုကို အိမ်တွင် ဖတ်ခြင်း၏ စူးရှသက်ရောက်မှုကို တမန်တော်မြတ်ﷺက ဤသို့ မိန့်တော်မူပါသည်။ အလ္လာဟ်အရှင်မြတ်သည် မိုးတွေနှင့်မြေကို မဖန်ဆင်းမီနှစ်ပေါင်းနှစ်ထောင် အလျှင်က ကျမ်းတစ်ခုကို ရေးတော်မူသည်။ ယင်းကျမ်းသည် အရ်ရှ်တော်နားမှာ ရှိပေသည်။ အရှင်မြတ်က ထိုကျမ်းထဲမှာ အာယသ် နှစ်ပိုဒ်ကို ချပေးတော်မူခဲ့သည်။ ယင်းအာယတ်တော်နှစ်ပိုဒ်ဖြင့် စူရဟ်ဗကရဟ်ကို အဆုံးသတ်ထားသည်။ ဘယ်အိမ်မှာမဆို ထိုနှစ် အာယသ်ကို သုံးညတိုင်တိုင် ဖတ်ပါက ထိုအိမ်ကို ရှိုင်သွာန်ကပ်နိုင်မည်ဟုတ်။ (အဟ်မဒ်ကျမ်း– ၁၇၆၈၈) (စွဟီးဟုလ်ဂျာမိအ် ကျမ်း– ၁၇၉၉)

**စေတနာစကား(၈)**

## အိမ်တွင်းသာသနာ့အသိပညာ။

အိမ်တွင် မိသားစုကို သာသနာ့ပညာ သင်ပေးခြင်းသည် အလ္လာ့ဟ်အမိန့်နာခံသောအားဖြင့် အိမ်ထောင်ဦးစီး တစ်ယောက် ဆောင်ရွက်ရမည့် တရားတော်၏ အမိန့်တစ်ခု ဖြစ်သည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ قُوٓا۟ أَنفُسَكُمْ وَأَهْلِيكُمْ نَارًا وَقُودُهَا ٱلنَّاسُ وَٱلْحِجَارَةُ

အို–"မုအ်မင်န်" သက်ဝင်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် မိမိတို့ကိုယ်များကိုလည်းကောင်း၊ မိမိတို့၏ အိမ်သူအိမ်သား တိုကိုလည်းကောင်း၊ (ငရဲ)မီး(ဘေး)မှ ကင်းလွတ်စေကြလေကုန်။ ယင်း(ငရဲ)မီး၏ လောင်စာများမှာ လူများနှင့် ကျောက်တုံးများ ဖြစ်ကြ၏။ (စူရဟ်သဟ်ရီးမ်– ၆)

ဤအာယတ်တော်သည် အိမ်သူအိမ်သားများကို ပညာသင်ကြား ပြုစုပျိုးထောင်ရေးနှင့် ၎င်းတို့ကို ကောင်းရာညွှန်ကြား၊ မကောင်းမြစ်တား ပြုရေးတို့နှင့် သက်ဆိုင်သည့် အဓိကအမိန့် ဖြစ်သည်။ အိမ်ထောင်ဦးစီးပေါ်ရှိသော တာဝန်နှင့်စပ်

လျှင်းပြီး မိန့်ကြားထားသည့် ဤအာယတ်တော်ကို ဖွင့်ဆိုထားသော အနက်ဖွင့်ဆိုမှု တချို့ကို ကြည့်ပါ။

**၁။** ကသာဒဟ်က မိန့်သည်။ သူတို့ကို အလ္လာ့ဟ်အမိန့်နာခံဖို့ အမိန့်ပေးလျက် အမိန့်ဖီဆန်ခြင်းမှ တားမြစ်ရမည်။ အလ္လာ့ဟ်အမိန့်တော်တွေကို ကိုယ်တိုင်ကိုယ်ကျဆောင်ရွက်၍ သူတို့ကိုလည်း ဆောင်ရွက်စေရမည်။ ထိုအပေါ် သူတို့ကို ပံ့ပိုးပေးရမည်။ အလ္လာ့ဟ်အမိန့် ဖီဆန်နေသည်ကို တွေ့လျှင် သူတို့ကို သတိပေးတားမြစ်ရမည်။ အကျပ်ကိုင်ရမည်။ (သွဗ်ရီကျမ်း– ၂၈၊ ၁၆၆)

**၂။** ဿွဟ်ဟားက်နှင့် မုကာသိလ်တို့က မိန့်သည်။ ဆောင်ရွက်ရန် အလ္လာဟ် ပြဋ္ဌာန်းထားသော အရာများနှင့် ရှောင်ကြဉ်ရန် အလ္လာဟ်အမိန့် ပေးထားသော အရာများကို မိမိအမျိုးများနှင့် လက်အောက်သားများအား သင်ကြားပေးရန် မွတ်စ်လင်မ်တိုင်းပေါ်မှာ တာဝန်ရှိသည်။ (အိဗ်နေ့ကဆီးရ်– ၈၊ ၁၈၉)

**၃။** အလီﷺမိန့်သည်။ ၎င်းတို့ကို ပညာသင်ကြားပေးပါ။ ယဉ်ကျေးသိမ်မွေ့အောင် လုပ်ပေးကြပါ။ (ဇာဒွလ်မစီးရ်ကျမ်း– ၈၊ ၃၁၂) (ရှုအဗုလ်အီမာန်ကျမ်း၊ ၈၂၈၁)

**၄။** အလ်ကယ်ယားသွဗ်ရီ(ရဟ်)က မိန့်သည်။ ကောင်းရာမွန်ရာ သာသနာရေးရာများနှင့် မရှိမဖြစ်လိုအပ်သည့် ယဉ်ကျေးမှုများကို ကျွန်တော်တို့၏ ဇနီးများ၊ သားသမီးများအား သင်ကြားပေးရန် ကျွန်တော်တို့အပေါ်တွင် တာဝန်ရှိသည်။ (အဟ်ကာမုလ်ကုရ်အာန်– ၅/၃၁)

ကျွန်များကိုပင် ပညာသင်ကြားပေးရမည်ဟု တမန်တော်မြတ်ﷺက တိုက်တွန်းခဲ့သည်ဖြစ်ရာ သားသမီးအရင်းများ ဖြစ်နေလျှင် ပညာသင်ကြားပေးရန်မှာ အဘယ်မျှ အရေးကြီးကြောင်း ပေါ်လွင်ပါသည်။

အိမာမ်ဗုခါရီက မိမိစွဟီးဟ်ကျမ်းထဲတွင် မိန့်သည်။ အမျိုးသားသည် မိမိ ကျွန်မနှင့် မိမိ မိသားစုကို ပညာသင်ပေးခြင်းကဏ္ဍ။ ထို့နောက် ဟဒီးဆ်တော်တစ်ပုဒ်ကို ဖော်ပြသည်။ လူသုံးဦးရှိသည်။ ၎င်းတို့သည် အကျိုးနှစ်ဆရကြမည်။ နောက်တစ်ဦးမှာ ဤသို့သော လူဖြစ်သည်။ သူ့ထံမှာ ကျွန်မတစ်ယောက်ရှိသည်။ ထိုကျွန်မကို သူက ယဉ် ကျေးမှုကို ကောင်းမွန်စွာ သင်ပေးသည်။ ပညာကိုလည်း ကောင်းမွန်စွာ သင်ပေးသည်။ ထို့နောက် သူကောင်းပြုပြီး ထိုကျွန်မကို လက်ထပ်လိုက်သည်။ ထိုသူအတွက်လည်း အကျိုးနှစ်ဆရှိသည်။ (ဗုခါရီကျမ်း ၉၇၊ မွတ်စ်လင်မ်ကျမ်း ၁၅၄)

အိဗ်နုဟဂျရ်က သည်ဟဒီးဆ်ကို ဖွင့်ဆိုလျက် မိန့်သည်။ ဟဒီးဆ်တော်နှင့် တင်ထားသော ခေါင်းစဉ်မှာ ကိုက်ညီပါသည်။ ကျွန်မနှင့် ပတ်သက်၍ စာသားတွင်ပါ အတိအလင်း လာထားသည်။ မိသားစုနှင့် ပတ်သက်၍မူ စဉ်းစားပြီး သိနိုင်သည်။ အကြောင်းမှာ ကျွန်မဟုတ်သော မိမိမိသားစုအား အလ္လာဟ်သတ်မှတ်ပြဋ္ဌာန်းထားသော၊ တမန်တော်မြတ်ﷺ ကျင့်မူမိန့်မြွက်ခဲ့သော အရာများကို သင်ကြားရန် ဂရုစိုက်ခြင်းသည် ကျွန်များကို သင်ကြားရန် ဂရုစိုက်ခြင်းထက် ပိုလေးနက်၊ ပိုအရေးကြီးပါသည်။ (ဖသ်ဟုလ်ဘာရီကျမ်း၊ တွဲ ၁ စာ ၁၉၀)

အလုပ်၊ တာဝန်၊ ဆက်စပ်ရာများ၏ ရှုပ်ထွေးမှုများတွင်နေပြီး တစ်ခါတစ်ရံ မိမိ မိသားစုကို ပညာသင်ကြားပေးရန် အချိန်ပေးဖို့ မေ့သွားတတ်ကြသည်။ ထိုအတွက် နည်းလမ်းကောင်းတစ်ခုမှာ မိမိ မိသားစုတင်မက မိမိအမျိုးအသိုင်းအဝိုင်းအတွက်ပါ အိမ်တွင် ပညာသင်ကြားရေး အစီအစဉ်လုပ်ဖို့ အများလာနိုင်မည့် ရက်တစ်ရက်ကို သီးသန့်သတ်မှတ် ထားသင့်ပါသည်။ နောက်ပြီး သတ်မှတ်ထားသောရက်ကို အားလုံးသိအောင် ကြေညာထားလိုက်ပါ။ သို့နှင့် စည်ကားသိုက်မြိုက်သော ပညာ့ထိုင်ဝိုင်းလည်း ဖြစ်မည်။ လာပါများလျှင် အားတက်လာကြမည်။ ကိုယ်တိုင်က ဦးစွာ ကြပ်ကြပ်မတ်

မတ်ပါဝင်ဖို့ ဂရုစိုက်ရမည်။ ဒီလို နည်းလမ်းကို တမန်တော်မြတ်ﷺလည်း ကျင့်သုံးခဲ့ပါသည်။

အိမာမ်ဗုခါရီက အမျိုးသမီးများအတွက် ပညာသင်ကြားပေးဖို့ သီးသန့်ရက် သတ်မှတ်ပေးရမည် လောဟု ခေါင်းစဉ်တပ်ပြီးနောက် အဗူစအီးဒ်ခွဒ်ရီ رضي الله عنه ၏ ဟဒီးဆ်ကို ဆင့်ပြန်ထားပါသည်။ အမျိုးသမီးများက တမန်တော်မြတ်ﷺကို လျှောက်ထားကြသည်။ အမျိုးသားများသည် ကျွန်မတို့ထက် သာသွားကြပြီ။ ထို့ကြောင့် ကျွန်မတို့အတွက် ကိုယ်တော့်ဘက်မှ ရက်တစ်ရက် သတ်မှတ်ပေးတော်မူပါ။ သို့နှင့် ကိုယ်တော်မြတ်ﷺက သူမတို့ကို တွေ့ဆုံပြီး တရားဟောကြားရန် ရက်တစ်ရက် ချိန်းဆိုသတ်မှတ်ပေးတော်မူ လိုက်သည်။ (ဗုခါရီကျမ်း၊ ၁၀၁)

အိဗ်နုဟာဂျရ်က မိန့်သည်။ ဤအကြောင်းနှင့် ပတ်သက်ပြီး အဗူဟုရိုင်ရဟ် رضي الله عنه ဆင့်ပြန်သော ဟဒီးဆ်တွင် ဤသို့လာသည်။ ကိုယ်တော်မြတ်ﷺက မိန့်တော်မူသည်။ အသင်မတို့ကို တွေ့ဆုံမည့်နေရာသည် ဘယ်သူဘယ်ဝါတို့ဆီမှာ ဖြစ်မည်။ ထို့နောက် ကိုယ်တော်မြတ်ﷺက သူမတို့ထံသွားပြီး ဩဝါဒများ မိန့်ခြွေတော်မူသည်။" (ဖသ်ဟွလ် ဗာရီ-တွဲ ၁၊ စာ ၁၉၅)

ဟဒီးဆ်တော်မှ ကောက်နုတ်သိရှိရသော အကျိုးများမှာ-

**၁။** အိမ်များတွင် အမျိုးသမီးများအား ပညာသင်ပေးခြင်း။ **၂။** ပညာသင်ရရေးအတွက် စွဟာဗဟ်အမျိုးသမီးများ၏ စိတ်အား ထက်သန်မှု။ **၃။** အမျိုးသားများ အပေါ်မှာသာ အာရုံထားကြိုးပမ်းခြင်းသည် သာသနာပြုသူများ၊ အိမ်ဦးစီးများတွင်ရှိသော ကြီးမားသောပေ့ါဆမှု၊ အားနည်းမှုကြီး တစ်ခုဖြစ်သည်။

အချို့က ပြောသည်။ ဤသို့ အစီအစဉ်လုပ်လိုက်ပြီးနောက် မည်သည့်အရာကို သင်ရမည်နည်း၊ အဘယ်မှ စရမည်နည်း။ အဖြေက ရှင်းပါသည်။ အရေးအကြီးဆုံးအရာများကို အလျင်သင်ရမည်။ ကုရ်အာန် ဘာသာပြန်နှင့် အကျယ်ဖွင့်ဆိုထားသောကျမ်းများ ရှိသည်။ ဟဒီးဆ်နှင့် ပတ်သက်၍လည်း စုဆောင်းထားသော ကျမ်းများရှိပါသည်။ ဥပမာ– ရိယာဿွတ်စ္စ်စွာလီဟီးန်ကျမ်း။ နောက်ပြီး တမန်တော်မြတ်ﷺ၏ ဘဝလမ်းညွှန် စာအုပ်များလည်း ရှိပါသည်။ ထို့အပြင် အမျိုးသမီးများ သိထားရမည့် မတ်စ် အလဟ်များကို သင်ပေးရမည်။ ဥပမာ–ရာသီသွေးဆင်းခြင်းနှင့် ဆိုင်သည့် ပညတ်ချက်များ၊ စွလာသ်ဝတ်ပြုနည်း၊ ဇကာသ်ပေးနည်း၊ ဥပုသ်နှင့်ဆိုင်သည့် ပညတ်ချက်များ၊ ဟဂ်ျနှင့်ပတ်သက်သည့် အမိန့်များ၊ စားသောက်ဝတ်ဆင်ခြင်း နှင့်ဆိုင်သည့် ပညတ်ချက်များ၊ အလှအပနှင့် ဆိုင်သည့်အရာများ၊ သီချင်းများနှင့် ဆိုင်သည့် အမိန့်များစသည်ဖြင့် လိုအပ်သည်များ၊ အရေးကြီးသည်များကို ဦးစားပေး သင်ကြားရမည်။ ပြောထား၊ ဟောထားသည့် အခွေများ စီစဉ်ပေးခြင်းကလည်း ၎င်းတို့အတွက် အကျိုးမနည်းပေ။ စာဖတ်ဖို့ မအားသူများ၊ မဖတ်တတ်သူများလည်း အကျိုးခံစားနိုင်ကြသည်။ ထိုပညာသင်ကြားပေးသည့် နေရာကို သွားရာတွင် တရားတော်၏ အမိန့်ပညတ်များကို လိုက်နာရန်လည်း လွန်စွာ အရေးကြီးပါသည်။

## စေတနာစကား(၉)

## သင့်အိမ်တွင် အစ္စလာမ့်စာကြည့်တိုက်ကလေး လုပ်ပါ။

မိသားစုကို ပညာပေးရာတွင်၊ သာသနာ့အသိများ ဖြစ်ထွန်းစေရာတွင်၊ တရားတော်၏ အမိန့်တော်များကို ကြပ်ကြပ် မတ်မတ်လိုက်နာစေရာတွင် အိမ်၌ အစ္စလာမ့်စာကြည့်တိုက်ကလေးတစ်ခု လုပ်ခြင်းကလည်း အထောက်အကူတစ်ခုဖြစ်သည်။ ကြီးဖို့ မလိုပါ။ အဓိကလိုအပ်သည့် စာအုပ်တွေ ရှိဖို့ကသာ အဓိကပါ။ နောက်ပြီး ယူ

လွယ်နိုင်မည့် နေရာတွင် စာအုပ်ကို ထားရမည်။ ထိုစာအုပ်များကို ဖတ်ဖို့ မိသားစုကို အမြဲတိုက်တွန်းပါ။ စာဖတ်ဖို့အတွက် အိမ်ထဲမှာ သန့်ပြန့်သပ်ရပ်သော ခန်းမ တစ်ခု ကိုထားပါ။ နောက်ပြီး အိပ်ခန်းထဲမှာလည်း နေရာလေးလုပ်ပြီး စာအုပ်နည်းနည်းထား ပါ။ ဧည့်ခန်းမှာလည်းထားပါ။ အိမ်မှာရှိသည့် လူအတွက် အိမ်၏ ဘယ်နေရာမဆို သွား ပါက စာဖတ်နိုင်အောင် စီစဉ်ပေးထားပါ။ စာကိုအဆက်မပြတ် ဖတ်နိုင်အောင် စီစဉ်ပေးထားပါ။ စာကြည့်တိုက်ကလေးက အစီအစဉ်ကျရမည်။ ဆိုလိုသည်မှာ အမျိုးမျိုးသော ပြဿနာတွေကို ရှာနိုင်ဖို့အတွက် ကျမ်းကြီးပေကြီးတွေ လည်းပါရမည်။ ကျောင်းတွေမှာ ကလေးတွေကို အထောက်အကူဖြစ်မည့် စာအုပ်တွေလည်းပါရမည်။ အဆင့် အမျိုးမျိုး ရှိသည့် စာအုပ်တွေပါရမည်။ ကလေးတွေရော၊ လူကြီးတွေရော သုံးနိုင်မည့်စာအုပ်များ ပါရမည်။ ယောက်ျားရော၊ မိန်းမရော အသုံးချနိုင်မည့် စာအုပ် တွေ ပါရမည်။ ဧည့်သည်တွေ၊ မိတ်ဆွေတွေကို လက်ဆောင်ပေးဖို့ စာအုပ်တွေလည်း ထားရမည်။ ခိုင်လုံသည့် စာအုပ်များ ထားဖို့အတွက် ပညာရှင်များနှင့် တိုင်ပင်ရမည်။ လွယ်ကူစွာယူပြီး ဖတ်နိုင်ရန်၊ အချိန်ကုန်သက်သာရန်အတွက် စာအုပ်တွေကို သူ့ကဏ္ဍနှင့်သူ၊ နံပါတ်ပေး၍ သို့မဟုတ် အက္ခရာစဉ်လိုက် ထားရမည်။ ခေါင်းစဉ်ကြီး များ သတ်မှတ်၍ စာအုပ်တွေကို သက်သက်ခွဲထားပါ။ သဖိစီးရ်စာအုပ်များကို သက် သက်၊ ဟဒီးဆ်စာအုပ်များကို သက်သက်၊ ကိုယ်ကျင့်တရားနှင့် ဆိုင်သည့် ပြည်သူ့နီ တိများ ကို သက်သက်၊ သမိုင်း အတ္ထုပ္ပတ္တိများကို သက်သက်ထားပါ။ အကျိုးရှိသော၊ လိုအပ်သောစာအုပ်များကမူ များစွာရှိပါ သည်။ တစ်အုပ်ချင်းစီ တင်ပြရန် မလွယ်ပါ။ ပညာရှင်များနှင့် တိုင်ပင်ဆွေးနွေးပြီး ဖတ်သင့်သည့် စာအုပ်များဖတ်၊ ထားသင့်သည့် စာအုပ်ထားပါ။ (ပညာရှင်ဟုဆိုရာ တွင် ပညာရှင်ကိုသာ ဆိုပါသည်။ အမည်ခံကို မဆိုလိုပေ။) ပညာရှင်တို့၏ အမှတ် အသားကို အောက်တွင် ဖော်ပြပါမည်။

## စေတနာစကား (၁၀)

အိမ်တွင် အခွေများထားသော နေရာလည်း သတ်မှတ်ထားပါ။ အိမ်တိုင်းလိုလို မှာ၊ mp3၊ ကတ်ဆက်၊ CD၊ DVD Playerများ ရှိကြပါသည်။ ၎င်းတို့ကို ကောင်းသော နေရာတွင် သုံးနိုင်သကဲ့သို့ ဆိုးသောနေရာတွင်လည်း သုံးနိုင်သည်။ သို့ဖြစ်ရာ ထိုအရာများကို အလ္လာဟ်အရှင်မြတ် နှစ်သက်သည့်ပုံစံနှင့် မည်သို့သုံးစွဲကြမည်နည်း။

၎င်းကို အကောင်အထည်ဖော်ရန် ပထမဦးဆုံး အသံခွေများထားသောစင် လုပ်ရမည်။ ကောင်းသော အစ္စလာမ့် အသံခွေများ၊ ပညာရှင်၊ ကာရီကြီးများ၊ ပို့ချသူများ၊ သာသနာပြုပုဂ္ဂိုလ်များ၊ တရားဟောဆရာများ၏ အသံခွေများ ထားရမည်။ အချို့ ကာရီ ကြီးများ၏ ကုရ်အာန်ဖတ်သံသည် ကုရ်အာန်ကို ချစ်သွားအောင်ပါ လုပ်နိုင်သည်။ အင်မတန် နူးညံ့သိမ်မွေ့ ချစ်စဖွယ် ကောင်းသော အသံရှင်များ ရှိကြသည်။ သူတို့အခွေများကို အိမ်မှာ ဖွင့်ပေးခြင်းဖြင့် များစွာအကျိုးရှိပါသည်။ သူတို့ဖတ်သကဲ့သို့ ဖတ်ပုံဖတ် နည်းများကို လိုက်ကျင့်နိုင်သည်။ ကုရ်အာန်ကို အရသာရှိရှိ နားထောင် တတ်အောင် ကျင့်ရမည်။ ရှိုင်သွာန်၏ အသံနေရာများမှာ အစားထိုးပစ်လိုက်ရမည်။ အလ္လာဟ်အရှင် မြတ်၏ စကားတော်များ၊ ပြည့်နေသည့် နားများ၊ ရင်ဘက်များတွင် ရှိုင်သွာန်၏ အသံများ ဝင်ဆံ့တော့မည်မဟုတ်ပေ။ ကုရ်အာန်၊ ဟဒီးဆ်၊ ဓမ္မသတ်များ ဖြေကြားဖို့ ပို့ချထားသော အခွေပေါင်းများစွာ ရှိပါသည်။ ဘာသာပေါင်းစုံနှင့် ရှိပါသည်။ ကျွန်ုပ်တို့ နားထောင်နေသော အရာများသည် သာသနာ့ အကြောင်းများဖြစ်မှု လူကြည့်၍ နားထောင်ရမည်။ အကြောင်းမှာ ဤသည် သာသနာဖြစ်သောကြောင့် ဘယ်သူ့ဆီက ဤသာသနာကို ယူနေသနည်းဆိုသည်ကို ကြည့်ရလိမ့်မည်။ အပြစ်ရှောင်၊ ကောင်းကျိုးဆောင်သော သက္ကဝါရှင်၊ မှန်ကန်သော ဟဒီးဆ်များပေါ်မှာ အားထားသူ၊ အစွဲမရှိသူ၊ အထောက်အထားနှင့် လျှောက်လှမ်းသူ၊ အလယ်အလတ်လမ်းစဉ်

ကို လျှောက်သူ၊ အစွန်းမရောက်သူ၊ အမြင်ကျယ်သူတို့၏ မိန့်ခွန်းတွေ၊ ဖြေကြားပို့ချမှုတွေကို နားထောင်ရမည်။ အထောက်အထားပြခြင်း၊ မကောင်းတာတွေကို တိုက်ဖျက်ခြင်း၊ လူထုကို ထိန်းသိမ်းပဲ့ ပြင်ခြင်းတို့ကို ဆောင်ရွက် နေသော စာပို့ချသူတို့၏ စကားများကို နားထောင်ခြင်းသည် မွတ်စ်လင်မ့်အိမ်တွင် တစ်ဦးချင်းကို ဖန်တီးတည်ဆောက်ရာတွင် အလွန်အရေးပါသော ကိစ္စ ဖြစ်ပေသည်။

အခွေများလည်း များစွာရှိပါသည်။ စာပို့ချသူများသည်လည်း များစွာရှိပါသည်။ အရေးကြီးသည်မှာ စာပို့ချသူ၏ လျှောက် လှမ်းချက်အမှန်ကို သိရန်သာ ဖြစ်သည်။ သို့မှသာ သူ့အခွေများကို စိတ်ချလက်ချ နားထောင်နိုင်မည်။ စိတ်ချနိုင်သူ၏ အမှတ် လက္ခဏာများအနက် တချို့မှာ

**၁။** သူသည် လွတ်မြောက်မည့်အုပ်စု၊ အဟ်လေ့စ္စုန္နသ်ဝလ်ဂျမာအသ်၏ ယုံကြည်ချက်ပေါ်တွင် ရှိရမည်။ စွန္နသ်တော်ကို လိုက်စားပြီး ဗိဒ်အသ်ကို စွန့်သူ၊ ကျောခိုင်းသူ ဖြစ်ရမည်။ အလယ်အလတ်ကျသော၊ အစွန်းမရောက်သော လမ်းစဉ်အတိုင်း လျှောက်လှမ်းသူ ဖြစ်ရမည်။

**၂။** မှန်ကန်သော ဟဒီးဆ်တော်များကို နာယူ၊ အားထားသူဖြစ်ပြီး မခိုင်လုံသော၊ လုပ်ကြံ ထားသော ဟဒီးဆ်တော်များကို ရှောင်ရှားသူ ဖြစ်ရမည်။

**၃။** လူထု၏ အခြေအနေမှန်ကို သိသူဖြစ်ရမည်။ သို့မှသာ အနာနှင့်ဆေးတွေ့မည်။ လူတို့ လိုအပ်နေသောအရာတွေကို သူတင်ပြနိုင်မည်။

**၄။** တတ်နိုင်သလောက် အမှန်ပြောသောသူ ဖြစ်ရမည်။ မဟုတ်တာကို မပြောသူ ဖြစ်ရမည်။ အလ္လာဟ်ကို စိတ်ဆိုးစေပြီး လူများ ကျေနပ်အောင် လုပ်သူမဖြစ်ရ။

ကလေးတော်တော်များက အခွေများကို နှစ်သက်ကြသည်။ ထို့ကြောင့် သူတို့ကို တရားတော်၏ အခွေလေးများနှင့် စွဲဆောင်ပါ။ အစ္စလာမ့်ကဗျာ၊ လင်္ကာများလည်း သူတို့အတွက် အကျိုးရှိပါသည်။

## စေတနာစကား(၁၁)

သူတော်စင်၊ သူတော်ကောင်းများ၊ ဆရာသမားများ၊ ပညာသင်များကို အိမ်အလည်ဖိတ်ခေါ်ခြင်း။

رَبِّ اغْفِرْ لِي وَلِوَالِدَيَّ وَلِمَن دَخَلَ بَيْتِيَ مُؤْمِنًا وَلِلْمُؤْمِنِينَ وَالْمُؤْمِنَاتِ ۖ وَلَا تَزِدِ الظَّالِمِينَ إِلَّا تَبَارًا ﴿٢٨﴾

(၂၈) အို–ကျွန်ုပ်အား ဖန်ဆင်းမွေးမြူတော်မူသောအရှင်၊ အရှင်မြတ်သည် ကျွန်ုပ်၊ ကျွန်ုပ်မိဘနှစ်ပါးနှင့် ကျွန်ုပ်အိမ်တွင် ယုံကြည်သူအဖြစ်နှင့် ဝင်ရောက်သူများအပြင် အီမာန် ယုံကြည်သူယောကျ်ား မိန်းမများကိုလည်း လွတ်ငြိမ်းချမ်းသာခွင့် ပေးသနားတော်မူပါ။ ထို့ပြင် အရှင်မြတ်သည် မတရားသောသူများကိုမူ ပျက်စီးမှုကိုပင် တိုးပွားစေတော်မူပါ။ (ကုရ်အာန် ၇၁း၂၈)

အီမာန်ရှင်တွေ သင့်အိမ်ထဲဝင်ပါက သင့်အိမ်ကို ပိုပြီးလင်းဝင်းစေမည်။ သူတို့နှင့်အတူ စကားပြောဆွေးနွေး၊ အမေးအဖြေ လုပ်ခြင်းဖြင့် များစွာ အကျိုးရှိပါသည်။ ကတိုးရောင်းသူသည် သင့်ကို ကတိုးလက် ဆောင်ပေးလျှင် ပေးလိမ့်မည်။ သို့မဟုတ် သင်က သူ့ထံမှ ဝယ်ချင်ဝယ်လိမ့်မည်။ သို့မဟုတ် အနည်းဆုံး သူ့ဆီက အမွှေးရနံ့များ ရလိမ့်မည်။ ထိုသို့အမေးအဖြေ၊ ဆွေးနွေးမှုများကို ကန့်လန့်ကာနောက် ထိုင်နေသော အမျိုးသမီးများ၊ ကလေးများ နားထောင်ပါလျှင် အားလုံးအတွက် ပွဲပြင်မှုရပေသည်။ သင့်အိမ်ထဲတွင် ကောင်းသည့်သူတစ်ဦးဦးကို ဝင်စေခြင်းသည် စင်စစ်တွင် သင့်အိမ်ထဲမှ အဖျက်မိစ္ဆာသမား၊ မကောင်းသူကို ထုတ်လိုက်ခြင်းပင် ဖြစ်သည်။

## စေတနာစကား(၁၂)

**အိမ်များတွင် တရားတော်အမိန့်တွေကို သင်ခြင်း။ ထိုအမိန့်များထဲမှာ–**

**(၁)** အိမ်မှာ စွလာသ်ဝတ်ပြုခြင်း။

အမျိုးသားနှင့်ပတ်သက်ပြီး တမန်တော်မြတ်ﷺက မိန့်တော်မူထားပါသည်။ ဖရ်သွ်ကလွဲ၍ အိမ်၌ဝတ်ပြုသော ကျန်စွလာသ်မှာ အမျိုးသား၏ အမြတ်ဆုံးစွလာသ် ဖြစ်သည်။" (ဗုခါရီကျမ်း-၇၃၁)

အကြောင်းမရှိလျှင် ဗလီ၌ စွလာသ်ဝတ်ပြုခြင်းမှာ ဝါဂျစ်ဗ်ဖြစ်သည်။ တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ လူတို့အနားမှာ ဝတ်ပြုသော နဖိလ်စွလာသ်ထက် အိမ်မှာဝတ်ပြုသော အမျိုးသား၏ စွလာသ်က ပိုသာမြတ်သည်။ ထိုသာပိုမှုသည် တစ်ယောက်တည်း ဝတ်ပြုသော စွလာသ်ထက်အများနှင့်အတူ ဝတ်ပြုသော စွလာသ်က သာပိုမြတ်သကဲ့သို့ ဖြစ်သည်။

- အမျိုးသမီးကတော့ စွလာသ်ဝတ်ပြုသောနေရာ လုံခြုံပြီး အတွင်းကျလေ ပိုမြတ်လေပင် ဖြစ်သည်။ အကြောင်းမှာ တမန်တော်မြတ်ﷺက ဤသို့ မိန့်တော်မူထားသည်။ အမျိုးသမီးတို့၏ အကောင်းဆုံးသော စွလာသ်မှာ အိမ်၏ အတွင်းအကျဆုံး အပိုင်းတွင် ဝတ်ပြုသောစွလာသ် ဖြစ်သည်။ (မုစ်နဒ်အဟ်မဒ်ကျမ်း-၂၅၃၃၁၊ စွဟီးဟုလ်ဂျာမိအ်ကျမ်း-၃၃၁၁)

**(၂)** သူများအိမ်သွား၍ ဦးဆောင်မှု မပြုရ။ အိမ်ရှင်ထိုင်သောနေရာတွင်လည်း အခွင့်မရှိဘဲ မထိုင်ရ။ တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ သူများပိုင်နက်သွား၍ ဦးဆောင်မှု မပြုရ။ အိမ်ရှင်၏ နေရာတွင်လည်း အခွင့်မရှိဘဲမထိုင်ရ။ (မွတ်စ်လင်မ်ကျမ်း-၆၇၃) အခြား -သူက ပိုတတ်၊ ပိုတော်သူ ဖြစ်လင့်ကစား ပိုင်နက်တွင် ပိုင်ရှင်သာပို၍ အိမာမ် လုပ်ထိုက်သည်။ ထိုနည်းအတူ ပိုင်ရှင်၏ အထူးနေရာများဖြစ်သော ကုတင်၊ အခင်း စသည်တို့မှာ အခွင့်မရဘဲ မထိုင်ရပါ။

**(၃)** အခွင့်တောင်းခြင်း။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لَا تَدْخُلُوا۟ بُيُوتًا غَيْرَ بُيُوتِكُمْ حَتَّىٰ تَسْتَأْنِسُوا۟ وَتُسَلِّمُوا۟ عَلَىٰٓ أَهْلِهَا ۚ ذَٰلِكُمْ خَيْرٌ لَّكُمْ

لَعَلَّكُمْ تَذَكَّرُونَ ﴿٢٧﴾ فَإِن لَّمْ تَجِدُوا۟ فِيهَآ أَحَدًا فَلَا تَدْخُلُوهَا حَتَّىٰ يُؤْذَنَ لَكُمْ ۖ وَإِن قِيلَ لَكُمُ ٱرْجِعُوا۟ فَٱرْجِعُوا۟

هُوَ أَزْكَىٰ لَكُمْ ۚ وَٱللَّهُ بِمَا تَعْمَلُونَ عَلِيمٌ ﴿٢٨﴾

"အို- အီမာန်ယုံကြည်သူအပေါင်းတို့၊ အသင်တို့သည် အသင်တို့အိမ်မှလွဲ၍ အခြားအိမ်များထဲသို့ (ထိုအိမ်များ၏)အိမ် သူအိမ်သားများထံမှ ခွင့်ပြုချက်ရယူပြီး အိမ် သူအိမ်သားများအပေါ် စလာမ်မေတ္တာပို့သခြင်း မပြုသမျှ ဝင်ရောက်ခြင်း မပြုကြနှင့်။ ဤသည် အသင်တို့အတွက် သတိပြုကြရန် အကောင်းဆုံးပင်ဖြစ်သည်။ ထို့နောက် အကယ်၍ အသင်တို့သည် ထိုအိမ်များတွင် တစ်ဦးမှ မတွေ့ခဲ့ကြလျှင်၊ အသင်တို့သည် အသင်တို့အတွက် အခွင့်မရရှိသမျှ ထိုအိမ်များထဲသို့ မဝင်ကြနှင့်။ ထို့ပြင် အကယ်၍ အသင်တို့ကို ပြန်ကြရန် ပြောဆိုခဲ့လျှင် အသင်တို့သည် ပြန်ခဲ့ကြပါ။ ထိုအရာသည် အသင်တို့အတွက် အစင်ကြယ်ဆုံးဖြစ်သည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် အသင်တို့ ပြုလုပ်သမျှကို အကြွင်းမဲ့ သိတော်မူသောအရှင် ဖြစ်တော်မူသည်။ " (ကုရ်အာန်- ၂၄း၂၇၊၂၈)

**(၄)** وَأْتُوا۟ ٱلْبُيُوتَ مِنْ أَبْوَٰبِهَا ۚ

"၎င်းပြင် အသင်တို့သည် (အသင်တို့၏)အိမ်များကို အိမ်(ရှေ့)တံခါးပေါက်များမှ ဝင်ကြပါ။" (ကုရ်အာန်- ၂း၁၈၉)

**(၅)** အိမ်အတွင်း ဘယ်သူမှမရှိလျှင်၊ အိမ်ကလည်း ဧည့်ခန်း၊ သို့မဟုတ် အနားယူ၊ တည်းခိုဖို့ စီစဉ်ထားသည်ဆိုလျှင် အခွင့် မပါဘဲလည်း ဝင်ခွင့်ရှိသည်။

لَيْسَ عَلَيْكُمْ جُنَاحٌ اَنْ تَدْخُلُوْا بُيُوْتًا غَيْرَ مَسْكُوْنَةٍ فِيْهَا مَتَاعٌ لَّكُمْ

"အသင်တို့သည် လူမနေသည့် အကြင်အိမ်များတွင် ဝင်ရောက်ခဲ့လျှင် အသင်တို့တွင် မည်သည့် အပြစ်မှုမရှိပေ။ ထိုအိမ် များတွင် အသင်တို့အတွက် အကျိုးခံစား၍ ရ(သော ပစ္စည်း တစ်စုံတစ်ရာရှိ)သည်။" (ကုရ်အာန်- ၂၄း ၂၉)

– ဆွေမျိုး၊ ရောင်းရင်းမိတ်ဆွေတို့၏ အိမ်မှာ စားသောက်ခြင်းက ပြဿနာမရှိပါ။ အခြားသူများက အကယ်၍ မနှစ်မြို့ခြင်းမျိုးလည်း မရှိ၊ သော့လည်းပေးထားသည်ဆိုလျှင် ထိုအိမ်မျိုးမှာ စားသောက်ခြင်းကလည်း ပြဿနာမရှိပါ။

اَوْ مَا مَلَكْتُمْ مَّفَاتِحَهٗٓ اَوْ صَدِيْقِكُمْ

"အသင်တို့ သော့ထိန်းကြရသည့် အိမ်များ၊ အသင်တို့၏ မိတ်ဆွေများ၏ အိမ်များ (ထိုအိမ်များမှ အသင်တို့၏ စားသုံးခြင်းကို မည်သည့်အရာမျှ တားမြစ်ထားခြင်း မရှိပေ။)" (ကုရ်အာန်- ၂၄း ၆၁)

**(၆)** အိပ်စက်အနားယူချိန်များတွင် အခွင့်မရှိဘဲ မိဘတို့၏ အိပ်ခန်းများထဲကို မဝင်ရန် ကလေးများနှင့် အိမ်ဖော်များကို အမိန့်ပေး ထားခြင်း။

ထိုတားထားသော အချိန်များမှာ ဖဂျ်ရ်စွလာသ် မတိုင်မီ၊ လဲလျောင်းအနားယူချိန်၊ အိရှာစွလာသ်ပြီးနောက် အချိန်များ ဖြစ်သည်။ အမိန့်ပေးရခြင်းအကြောင်းကတော့ မမြင့်သင့်၊ မမြင်အပ်သော အရာများကိုမမြင်မိရန် ဖြစ်သည်။ ဤအချိန်များအပြင် အခြားအချိန်များမှာ မြင်မိသွားပါက ခွင့်လွှတ်နိုင်ပါသည်။ အကြောင်းမှာ သူတို့သည် တားမြစ်ထားရန် မဖြစ်နိုင်သော၊ အဝင်အထွက် များသောလူများ ဖြစ်ကြသည်။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်။

يَٰٓأَيُّهَا ٱلَّذِينَ ءَامَنُوا۟ لِيَسْتَـْٔذِنكُمُ ٱلَّذِينَ مَلَكَتْ أَيْمَٰنُكُمْ وَٱلَّذِينَ لَمْ يَبْلُغُوا۟ ٱلْحُلُمَ مِنكُمْ ثَلَٰثَ مَرَّٰتٍ ۚ
مِّن قَبْلِ صَلَوٰةِ ٱلْفَجْرِ وَحِينَ تَضَعُونَ ثِيَابَكُم مِّنَ ٱلظَّهِيرَةِ وَمِنۢ بَعْدِ صَلَوٰةِ ٱلْعِشَآءِ ۚ ثَلَٰثُ عَوْرَٰتٍ
لَّكُمْ ۚ لَيْسَ عَلَيْكُمْ وَلَا عَلَيْهِمْ جُنَاحٌۢ بَعْدَهُنَّ ۚ طَوَّٰفُونَ عَلَيْكُم بَعْضُكُمْ عَلَىٰ بَعْضٍ ۚ

" အို– အီမာန် ယုံကြည်သူအပေါင်းတို့၊ အသင်တို့၏ကျွန်၊ ကျွန်မများနှင့် အသင်တို့ထဲမှ အရွယ်မရောက်ကြသေးသော ယောကျ်ားလေးများကို (အသင်တို့ အိမ်ထဲတွင် ဝင်ထွက်သွားလာရန်) အချိန်သုံးချိန်တွင် ဝင်ခွင့်တောင်းကြရမည်ဖြစ်သည်။ ဖဂျ်ရ်စွလာသ် မတိုင်မီ(တစ်ချိန်)၊ အသင်တို့သည် အသင်တို့၏ အဝတ်အစားများကို ချွတ်၍ထားလေ့ရှိကြသော နေ့လယ်အချိန်တွင် (တစ်ချိန်)နှင့် အိရှာစွလာသ် အပြီးတွင် (တစ်ချိန်၊ ဤ)သုံးချိန်သည် အသင်တို့၏ ဖုံးအုပ်ရမည့်အစိတ် အပိုင်းများ လစ်လပ် (ကောင်း လစ်လပ်)နေမည့် အချိန်များဖြစ်သည်။ ထိုအချိန်များမှလွဲလျှင် (ခွင့်မတောင်းဘဲ ဝင်ထွက်သွားလာခြင်းသည်) အသင်တို့ အပေါ်နှင့် သူတို့အပေါ်တွင် မည်သည့်အပြစ်မျှ မရှိပေ။ သူတို့သည် အသင်တို့ထံသို့ မကြာခဏဝင်ထွက်သွား လာသူများပင် ဖြစ်ကြသည်။ အသင်တို့ထဲမှ တစ်ဦးသည် တစ်ဦးထံသို့ (မကြာခဏ သွားလာနေရခြင်းပင်ဖြစ်သည်)။" (ကုရ်အာန်– ၂၄း ၅၈)

**(၇)** အခွင့်မတောင်းဘဲ သူများအိမ်ထဲချောင်း ကြည့်ခြင်း ဟရာမ်ဖြစ်သည်။

တမန်တော်မြတ်(ဆွ)က မိန့်တော်မူသည်။ အခွင့်မရဘဲ အိမ်ထဲချောင်းကြည့်သူကို အိမ်ရှင်တွေကမျက်စိ ဖောက်ပစ်လိုက်လျှင် ဘာမှ လက်စားချေခွင့်လည်းမရှိ၊ လျော်ကြေးလည်း မရှိပေ။ (မုစ်နဒ်အဟ်မဒ်ကျမ်း–၈၉၉၇၊ စွဟီးဟုလ်ဂျာမိအ်ကျမ်း၊ ၆၀၄၆)

**(၈)** အိဒ်ဒသ်ထိုင်နေစဉ် အတောအတွင်းမှာ ကွာရှင်းပြတ်စဲထားသော အမျိုးသမီးကို အိမ်မှ မထွက်စေနှင့်။ မောင်းလည်းမထုတ်နှင့်။ ထို့ပြင် သူမတို့၏ စားဝတ်နေရေးကို လည်း တာဝန်ယူထားရမည်။ အလ္လာဟ်အရှင်မြတ်က မိန့်တော်မူသည်။

يَاَيُّهَا النَّبِىُّ اِذَا طَلَّقۡتُمُ النِّسَآءَ فَطَلِّقُوۡهُنَّ لِعِدَّتِهِنَّ وَاَحۡصُوا الۡعِدَّةَ ۚ وَاتَّقُوا اللّٰهَ رَبَّكُمۡ ۚ لَا تُخۡرِجُوۡهُنَّ مِنۡ بُيُوۡتِهِنَّ وَلَا يَخۡرُجۡنَ اِلَّاۤ اَنۡ يَّاۡتِيۡنَ بِفَاحِشَةٍ مُّبَيِّنَةٍ ؕ

"အို- တမန်တော်၊ (အသင်ပြောလိုက်ပါ)- အသင်တို့သည် ဇနီးမိန်းမများကို သွလာက် ပေးကွာရှင်းသည့်အခါ သူမတို့၏ အိဒ်ဒသ်ရက်များ (စ၍ ရေတွက်နိုင်သည့်)အချိန်ကာလတွင် သွလာက်ပေးကွာရှင်းကြပါ။ ထို့ပြင် အသင်တို့သည် အိဒ်ဒသ်ရက် များကို ရေတွက်ကြပါ။ ထို့ပြင် အသင်တို့သည် အသင်တို့အား ဖန်ဆင်းမွေးမြူတော်မူသော အလ္လာဟ်အရှင်မြတ်အား ကြောက်ရွံ့ကြပါ။ ထင်ရှားသော စက်ဆုပ်ဖွယ်ရာအမှုကို ထိုဇနီးမိန်းမများက ကျူးလွန်ကြသည်မှလွဲ၍ အသင်တို့သည် သူမတို့ကို သူမတို့၏ နေအိမ်များမှ မထွက်ခိုင်းကြနှင့်။ သူမတို့ကိုယ်တိုင်လည်း မထွက်ကြရပေ။" (၆၅း၁)

**(၉)** အမိန့်ဖီဆန်သောအမျိုးသမီးနှင့် ခွဲ၍ နေပိုင်သည်။ တရားတော်အရ သင့်တော်ရင် သင့်တော်သလို အိမ်ထဲမှာပဲဖြစ်ဖြစ်၊ အိမ်ပြင်မှာ နေ၍ပဲ ဖြစ်ဖြစ် ခွဲနေခွင့်ရှိသည်။ အိမ်ထဲမှာ နေ၍ ခွဲနေပိုင်ခွင့် အထောက်ထားကတော့ ဤအာယသ်တော်ပင်ဖြစ်သည်။

وَاهۡجُرُوۡهُنَّ فِى الۡمَضَاجِعِ

"ထို့နောက် (မနာခံကြသေးလျှင် ဒုတိယအဆင့်အနေဖြင့်) အသင်တို့သည် ထိုဇနီးမိန်းမများကို အိပ်ခန်းများထဲတွင် (သီးခြားခွဲအိပ်ပြီး) စွန့်ထားလိုက်ကြပါ။" (ကုရ်အာန်- ၄း ၃၄)

အိမ်အပြင်မှာ ခွဲ၍နေခြင်းကတော့ တမန်တော်မြတ်(ဆွ)ကိုယ်တော်တိုင်လုပ်ခဲ့သည်။ မိမိဇနီးများကို စွန့်ပြီး အိမ်အပြင်တွင် ရှိသော ထပ်ခိုးမှာ တစ်ယောက်တည်းနေခဲ့သည်။ (ဗုခါရီ၊ မွတ်စ်လင်မ်)

**(၁၀)** ညမှာ အိမ်ထဲတွင် တစ်ယောက်တည်း မနေပါနှင့်။ အိဗ်နအုမရ်ﷺက ဆင့်ပြန် သည်။ တမန်တော်မြတ်(ဆွ)သည် တစ်ယောက်တည်း နေခြင်းကို တားတော်မူသည်။ တစ်ယောက်တည်း အိမ်မှာနေခြင်း၊ တစ်ယောက်ထဲ ခရီးထွက်ခြင်းတို့ကို တားမြစ် တော်မူခဲ့သည်။ (မုစ်နဒ်အဟ်မဒ်ကျမ်း ၅၆၅၀၊ စိလ်စိလသုလ် စွဟီးဟာဟ်ကျမ်း၊ ၆၀)

အကြောင်းမှာ တစ်ယောက်တည်းနေခြင်းဖြင့် စိတ်ချောက်ချားဖွယ် ဖြစ်သည်။ ရန်သူ တစ်ယောက်ယောက်ကများ ဝင်တိုက်မလား။ သူခိုးများဝင်မလား။ နေမကောင်းများ ဖြစ်သွားရင်ဘယ်လိုလုပ်မလဲ။ အကယ်၍ အဖော်တစ်ယောက်ယောက် ရှိမည်ဆိုလျှင် ရန်သူလည်း အတင့်ရဲမည် မဟုတ်။ သူခိုးလည်း ဝင်ရဲမည်မဟုတ်။ ကျန်းမာရေး မကောင်းလျှင်လည်း တစ်ယောက်က ပြုစုနိုင်သည်။ (အလ်ဖသ်ဟုလ်ရဗ္ဗာနီ တွဲ ၅ စာ ၆၄)

**(၁၁)** အကာအရံ မရှိသော အိမ်ပေါ်တွင် မအိပ်ပါနှင့်။ တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ အကာအရံမရှိသော အိမ်ပေါ်တွင် အိပ်သူသည် ငါကိုယ်တော်နှင့် မဆိုင်ပါ။ (အဗူဒါဝူးဒ်ကျမ်း–၅၀၄၁၊ စွဟီးဟုအဗီဒါဝူးဒ်ကျမ်း ၅၀၄၁)

ယင်း၏ ဖွင့်ဆိုချက်ကို အောင်နလ်မအ်ဗူးဒ်ကျမ်းတွင် ဒီလို ရေးသည်။ ဘာလို့လဲဆို တော့ ဟိုဘက် ဒီဘက်လှည့်ရင် မကျအောင် ကာထားသည့် အကာအကွယ် မရှိဘဲ အိပ်မည်ဆိုလျှင် ပြုတ်ကျပြီး သေလိမ့်မည်။ သူသေလျှင် သူများအပြစ် မဟုတ်ပေ။ လုပ်သင့်လုပ်ထိုက်သည့် အစီစဉ်များကို မလုပ်ဘဲ နေခြင်းကြောင့် အလ္လာဟ်အရှင်မြတ် နှင့် အလ္လာ့ဟ် တမန်တော်က မသက်ဆိုင်ကြောင်း ကြေညာခြင်း ဖြစ်သည်။ သေလည်း ကိုယ့်ထိုက်နှင့် ကိုယ့်ကံပင် ဖြစ်သည်။

**(၁၂)** အိမ်တွေမှာရှိသော ကြောင်တို့၏ စားခြင်း သောက်ခြင်းကြောင့် ပန်းကန်၊ ခွက်တို့ ကို မသန့်မဖြစ်စေပါ။

အဗ်ဒွလ္လာဟ်ဗင်န်အဗီကသာဒဟ်ﷺကဆင့်ပြန်သည်။ ဝူသူလုပ်ဖို့ တစ်ဦးတစ်ယောက်က သူ့အတွက် ဇလုံချပေးတော့ ကြောင်က လာပြီး လျှာဖြင့် လျက်လေသည်။ သူက အဲဒီဇလုံထဲက ရေဖြင့်ဝူသူလုပ်လေသည်။ လူတို့က ပြောကြသည်။ အိုအဗူကသာဒဟ်၊ ထိုရေကို ကြောင်လျက်လိုက်ပြီ။ ထိုအခါ သူကမိန့်သည်။ တမန်တော်မြတ်ﷺမိန့်ကြားတော်မူသည်ကို ကျွန်ုပ်ကြားခဲ့သည်။ ကြောင်သည် မိသားစုဝင်ဖြစ်သည်။ သူသည် သင်တို့ထံ အဝင်အထွက် လုပ်သူဖြစ်သည်။ (စွဟီးဟုလ်ဂျာမိအ်ကျမ်း-၁၆၉၄)

အခြားဆင့်ပြန်ချက်တွင် ဤသို့လာရှိသည်။ ကြောင်သည် မသန့်မဟုတ်ပေ။ သူသည် သင်တို့ထံ အဝင်အထွက်များသူဖြစ်သည်။ (စွဟီးဟုလ်ဂျာမိအ်ကျမ်း ၂၄၃၇)

## စေတနာစကား(၁၃)

## အိမ်တွေမှာ စုရုံးခြင်း။

မိသားစုအရေးကိစ္စများနှင့် စပ်လျဉ်း၍ ပြောဆိုရန် အခွင့်အရေးပေးခြင်း။

وَالَّذِيْنَ اسْتَجَابُوْا لِرَبِّهِمْ وَاَقَامُوا الصَّلٰوةَ ۖ وَاَمْرُهُمْ شُوْرٰى بَيْنَهُمْ ۖ وَمِمَّا رَزَقْنٰهُمْ يُنْفِقُوْنَ ۝٣٨

“ ထို့ပြင် အကြင်သူများအတွက်လည်း ဖြစ်သည်။ ထိုသူများသည် သူတို့အား ဖန်ဆင်းမွေးမြူတော်မူသော အရှင်မြတ်အား လက်ခံနာယူခဲ့ကြသည်။ ထို့ပြင် သူတို့သည် စွလာသ်ဝတ်ပြုမှုကို တည်ဆောက်ကြသည်။ ထို့ပြင် သူတို့၏အရေးကိစ္စများတွင် သူတို့ အချင်းချင်း ညှိနှိုင်းတိုင်ပင်ဆောင်ရွက်ကြသည်။ ထို့ပြင် သူတို့သည် ငါအရှင်မြတ်က သူတို့အား ပေးသနားထားတော်မူသော ပစ္စည်းဥစ္စာများထဲမှ သုံးစွဲလှူဒါန်းကြသည်။” (ကုရ်အာန်-၄၂း ၃၈)

အိမ်မှာ နေရာတစ်ခုမှာ စုကြပြီး အိမ်တွင်းကိစ္စ၊ အိမ်ပြင်ကိစ္စတွေကို ဆွေးနွေးဖို့ အခွင့်အရေးတွေ ရှိလာပြီဆိုလျှင် မိသားစုတွေဟာ လှိုက်လှိုက်လှဲလှဲ ပါဝင်လာကြမည်။

အိမ်ဦးစီး၊ အိမ်တာဝန်ခံ ရှိတာတော့ မှန်ပါသည်။ သို့ပေမဲ့လည်း အခြားသူတွေကိုလည်း (အထူးသဖြင့် အသက်ကလေး တွေရလာကြရင်) ပြောခွင့်ဆိုခွင့်၊ ဆွေးနွေးတင်ပြခွင့်တွေ ပေးမယ်ဆိုရင် အဲဒီကလေးတွေဟာ တာဝန်ယူရဲလာကြမည်။ ထို့အတူ သူတို့ အကြံဉာဏ်တွေဟာလည်း တန်ဖိုးရှိပါလား ဟူ၍ ခံစားမိပြီး အလိုလို အားတက်ကာ တိုးတက်ရေးအကြောင်းခံ ဖြစ်လိမ့်မည်။ ဆွေးနွေးရမည့် အကြောင်းအရာများစွာ ရှိပါသည်။ ဥပမာ–ဟင်္ဂျနှင့်အွမ်ရဟ်အကြောင်း၊ ဆွေးမျိုးများနှင့်အဆက်အသွယ်လုပ်ရန် ခရီးသွားခြင်းအကြောင်း၊ ပိုင်သောလည်ပတ်မှုတွေ အကြောင်း၊ ထိမ်းမြားမင်္ဂလာနှင့် ဝလီမဟ်အကြောင်း၊ အကီကဟ်အကြောင်း၊ သူဆင်းရဲများ ဒုက္ခိတများကို ကူညီစောင့် ရှောက်ရမည့်အကြောင်း စသည်တို့ ဖြစ်သည်။ နောက်ထက် အရေးကြီးသော ဆွေးနွေးမှု တစ်ခုရှိပါသေးသည်။ အဲဒါကတော့ မိဘနှစ်ပါးနှင့် သားသမီးတွေ အကြားပြုရမည့် ဆွေးနွေးမှု ဖြစ်သည်။ အရွယ်ရောက်ပြီးသား သားသမီးတွေသည် အချို့အခက်အခဲများနှင့် ကြုံရလေသည်။ ထိုအခက်အခဲများကို မိဘနှင့် တီးတိုးတိုင်ပင် ဆွေးနွေးရာ၏။ လူငယ်အရွယ်မှာ ဖြစ်လေ့ဖြစ်ထရှိသည့် အခက်အခဲတွေသည် တစ်ချိန်က မိဘဖြစ်သူတွေ ကြုံကြိုက်ကျော်လွှားခဲ့သော အခက်အခဲများသာ ဖြစ်တတ်ကြသည်။ အမျိုးသမီးဆိုလျှင် အမျိုးသမီးအလိုက် မိခင်နှင့်တိုင်ပင် ဆွေးနွေးရမည်။ အတွင်းရေး အကြောင်းတွေကို မိဘဖြစ်သူက တွေးတော ဖြေရှင်းပေးရမည်။ ပြောပုံဆိုပုံလေးက "ဖေဖေမင်း အရွယ်တုန်းက ဆိုလျှင်၊ မေမေ မင်းအရွယ်တုန်းက ဆိုလျှင်"လို့ အစချီပြီး ပြောခြင်းက သားသမီးတွေ၏ ရှေ့ရေးမှာများစွာ အထောက်အကူပြုပါသည်။ ဒီလို ကိစ္စတွေကို အချိန်မပေးဘဲ မိဘတွေက ဘာသိဘာသာပဲနေမည်ဆိုလျှင် အဖြေရှာနေသည့် သား သမီး နုနုလေးတွေက အဖြေသိချင်သောကြောင့်

မပေါင်းအပ် သောသူတွေနှင့် ပေါင်းမိ သွားလိမ့်မည်။ ထိုမှတစ်ဆင့် ရလဒ်တွေကတော့ ပြောမ ကောင်းအောင်ပင် ဆိုးပေလိမ့် မည်။

## စေတနာစကား(၁၄)

## အိမ်တွင်းရေး ပြဿနာများကို သားသမီးတွေ ရှေ့မှာ မဖော်ပါနှင့်။

အိမ်တစ်အိမ်မှာ လူစု၍နေသောကြောင့် ပြဿနာမရှိတာ ရှားပါသည်။ ပြဿနာကတော့ ဖြစ်မည်။ သို့သော် စေ့စပ်ညှိနှိုင်း ခြင်းက အကောင်းဆုံး ဖြစ်သည်။ အမှန်ကို ဝန်ခံခြင်းက မြင့်မြတ်မှု ဖြစ်သည်။

အိမ်အတွင်းရေးကို ထိုခိုက်ယိုင်နဲ့စေသော အရာများမှာ အိမ်သူအိမ်သားများ ရှေ့တွင် လွန်စွဲမှုများကို ဖော်ထုတ်ခြင်းပင် ဖြစ်သည်။ ထိုသို့ပြုခြင်းဖြင့် အိမ်အတွင်းမှာ ပါတီကွဲနေကြလိမ့်မည်။ မစုစည်းတော့ဘဲ တစ်လမ်းစီ ဖြစ်ကုန်ကြလိမ့်မည်။ ကလေးတွေကို အငုံစိတ် မဖြစ်အောင် ထားရမည်။ ဒီလို အိမ်ကို မြင်ယောင်ကြည့်ပါ။ ဖခင်က သားသမီးကို ပြောမည်။ မင်းအမေကို စကားမပြောနဲ့။ မိခင်က သားသမီးကို ပြောမည်။ မင်းအဖေကို စကားမပြောနဲ့။ ကြားထဲက သားသမီးက အတွင်းကြေကြေနေလိမ့်မည်။ အားလုံး သောကနင့်နေရမည်။ ဒါကြောင့် လွန်စွဲမှုတွေ၊ ကွဲလွဲမှုတွေ မပေါ်အောင် ကြိုးစားရမည်။ ကွဲလွဲမှုတွေ ဖြစ်ခဲ့ရင်တောင် အတတ်နိုင်ဆုံး ဖုံးဖိ၍ ထားရမည်။ အလ္လာဟ် အရှင်မြတ်သည် ကျွန်ုပ်တို့၏ နှလုံးသားများကို စုစည်း ပေးတော်မူပါ။

## စေတနာစကား(၁၅)

## အကျင့်မကောင်းသူကို အိမ်သို့ မဝင်စေနှင့်။

တမန်တော်မြတ်ﷺ မိန့်တော်မူသည်။ ဆိုးသွမ်းသူအနားမှာ နေသူ၏ ပမာ

သည် ပန်းပဲဆရာနားမှာ နေသူကဲ့သို့ ဖြစ်သည်။ (စွဟီးဟုလ်ဂျာမိအ်ကျမ်း ၅၈၃၉)

ဗုခါရီ၏ဆင့်ပြန်ချက်တစ်ခုတွင် ဤသို့လာရှိသည်။ ပန်းဘဲဖိုသည် သင့်အိမ်၊ သို့မဟုတ် သင့်အဝတ်အစားများကို လောင်ကျွမ်းလိမ့်မည်။ သို့မဟုတ် သူ့ထံမှ အနံ့ဆိုးကို ရရှိလိမ့်မည်။ (ဖသ်ဟုလ်ဗာရီကျမ်း တွဲ ၄ စာ ၃၂၃)

မိသားစုအချင်းချင်း၊ လင်မယားကြားမှာ ပြဿနာပေါင်း သောင်းခြောက်ထောင် ဖြစ်ရခြင်းသည် အိမ်ကိုဝင်ထွက်သွားလာ လေ့ရှိသော လူဆိုး၊ အကျင့်မကောင်းသူတို့ ကြောင့်လည်း အဖြစ်များသည်။ မိန်းမကို ခင်ပွန်းနှင့်မတည့်အောင်လုပ်သူ၊ ယောက်ျားကို ဇနီးနှင့်မတည့်အောင် လုပ်သူတို့သည် အလ္လာ့ဟ်ကရုဏာတော်မှ ဝေးမည်။ မိဘနှင့် သားသမီးတွေကြား ရန်ပွားအောင် လုပ်သူသည် ကျိန်စာစူးလိမ့်မည်။ ပြစ်ထားသော ပစ္စည်းတွေကို အိမ်မှာထားခြင်း၊ အိမ်မှာ ခိုးမှုတွေကို ဖြစ်ပေါ်ခြင်းတို့ သည်လည်း များသောအားဖြင့် ကိုယ်ကျင့်တရား မကောင်းသူတို့ကို အိမ်တွင်ဝင်ထွက် သွားလာခွင့် ပေးထားသောကြောင့် ဖြစ်သည်။ ထိုသို့သော လူမျိုးကို လုံးဝအိမ်ဝင်ခွင့် မပြုပါနှင့်။ အိမ်နီးချင်း ဖြစ်ရင်ဖြစ်နေပါစေ။ ယောက်ျား မိန်းမ မခွဲခြားနှင့်။ အိမ်ထဲကို ခြေမချစေနှင့်။ တချို့က အားနာသောကြောင့် ဝင်ခွင့်ပြုလိုက်တတ်သည်။ အိမ်ဝမှာ ရောက်ပြီး ဝင်ခွင့်တောင်းနေသောကြောင့် ဝင်ခွင့်ပြုလိုက်သည်လည်း ရှိသည်။ လုံးဝ အားမနာပါနှင့်။

ဤကိစ္စတွင် အမျိုးသမီးတွေသည်လည်း အဓိက နေရာမှာ ပါဝင်သည်။ တမန်တော်မြတ်(ဆွ)သည် မိမိ၏နောက်ဆုံး ဟဂ်ျတွင် ဤသို့ မိန့်ခွန်းပြောတော်မူသည်။ “ သင်တို့နှင့် ပတ်သက်၍ အမျိုးသမီးတွေ လုပ်ဆောင်ရမည့် ဝတ္တရားမှာ အသင်တို့မနှစ်သက်သည့်သူကို သင်တို့၏ အိပ်ယာခင်းပေါ် မထိုင်စေခြင်းနှင့် အသင်တို့ မနှစ်မြို့သူကို သင်တို့၏ အိမ်အတွင်းသို့ ဝင်ခွင့် မပြုခြင်းပင် ဖြစ်သည်။ (သိရ်မိဇီကျမ်း– ၁၁၆၃၊ စွဟီးဟုလ်ဂျာမိအ်ကျမ်း ၇၈၈၀)

သင်မတို့ကို ကိုယ့်သူငယ်ချင်း မိတ်ဆွေအမျိုးသမီးတွေနှင့်မတွေ့ဆုံဖို့ ခင်ပွန်းက တားမြစ်ရင်လည်း စိတ်မကောက်ပါနှင့်။ သူ့မှာ မကောင်းသည့် အကျင့်ဆိုး တစ်ခုခု

မြင်ထားလို့သာ သင်မခင်ပွန်းက တားမြစ်တာဖြစ်မည်။ ထိုအမျိုးသမီးတွေက သူတို့ လင်မယားတွေနှင့် သင်မ၏လင်ယောကျ်ားကို ယှဉ်ထိုးပြီး ပြလာလျှင်လည်း ပါးပါးနပ် နပ်ရှိပါ။ သင်မအမျိုးသားကို သူမတတ်စွမ်း နိုင်သည့် အရာတွေ တောင်းဆို ခြင်းဖြင့် ဖိအားမပေးပါနှင့်။

အိမ်ထဲတွင် ခင်ပွန်းသည်၏ မိတ်ဆွေများက သူ့ကို ဖျက်ဆီးရန် စွဲဆောင်နေ သည်ကို မြင်ရလျှင် သူတို့ကို ဖျောင့်ဖျ သွန်သင် ဖို့ အသင်မ အပေါ် တာဝန်ရှိပါသည်။

**စကားလက်ဆောင်**

အိမ်တွင် ကာကွယ်စောင့်ရှောက်ကြီးကြပ်မည့် အိမ်ဦးစီးတစ်ဦး ရှိကိုရှိမည်။ သူသည် မိသားစုဝင်များနှင့်အတူရှိကာ အိမ်တွင် ဖြစ်သော အခြေအနေများကို အမြဲ မျက်ခြေမပြတ် ကြည့်နေရမည်။ အိမ်၏ ပြင်ပ၌ရှိခြင်းက သဘာဝ ဖြစ်သည်။ သွားစရာ၊ လုပ်စရာ မရှိတော့သည့် အဆုံးမှ အိမ်ကို ပြန်ရမည်ဟူ၍ အချို့က ထင်မှတ်ထားကြ သည်။ ဤသည် မှားယွင်းသော အတွေးအခေါ်ပင် ဖြစ်သည်။ အမှန်မှာ အိမ်တွင်း၌ သာ နေခြင်းက သဘာဝမူလ ဖြစ်သည်။ အကြောင်းရှိမှသာ အပြင် ထွက်သင့်သည်။ ကောင်းသည်ကို ဆောင်ရွက်ဖို့ ထွက်လင့်ကစား ယှဉ်ထိုးပြီး ကြည့်သင့်သည်။ အပြင် ထွက်၍ ဆောင်ရွက်မည့် ကောင်းခြင်းနှင့်အတူ အဆစ်ရရှိမည့် အကုသိုလ်များ မည်မျှ ပါမည်နည်း။ ကုသိုလ်က တစ်ပဲ ငရဲတစ်ပိဿာများ ဖြစ်နေမလား ဟူ၍ ချင့်ချိန်ရမည်။

မိသားစုကို ဖြစ်ချင်ရာဖြစ် ပစ်ထားပြီး ပျော်ပွဲစားတွင် မြူးတူးနေသူများ၊ လက်ဖက်ရည်၊ ကော်ဖီဆိုင်နှင့် ကလပ်များတွင် အချိန် ဖြုန်းနေသူများသည် အဆိုး ရွားဆုံးသူများ ဖြစ်ကြသည်။ စိတ်သည် အကုသိုလ်ကို ခင်မင်သည်။ အိမ်အပြင်သို့ ထွက်ပြီဆိုလျှင် မကောင်းမှု အကုသိုလ်များ၏ ကြော့ကွင်းကို မနည်းရှောင်ကွင်းရမည်။ အကြောင်းမှာ ကိုယ့်အတွင်း၌ရှိသော စိတ်ကပင် မကောင်းမှု ဘက်သို့ ယိမ်းယိုင်းနေ ပေရာ အခြားသူတွေ၊ အရာတွေကြောင့် ဒုစရိုက်ထဲမကျမီ ကိုယ့်စိတ်၊ ကိုယ့်တဏှာ ကြောင့် ဒုစရိုက်ထဲ ကျရောက်ပါမည်။ ထို့ကြောင့် အတတ်နိုင်ဆုံး အိမ်မှ မထွက်ဘဲ

နေပါ။ ထွက်လျှင် မုတ်ဆိုးနှင့်သားကောင်ဟူ၍ နှစ်မျိုးအနက် တစ်မျိုးဖြစ်သွားနိုင်သည်။ အကြောင်းမှာ အိမ်အပြင်လောကသည် မြို့ပြဟု ပြောသော်လည်း အမှန်စင်စစ်တွင်ကား တောနက်ကြီး တစ်ခုကဲ့သို့ ဖြစ်၍နေပြီ။

## စေတနာစကား(၁၆)

## အိမ်သူအိမ်သားတို့၏ အခြေအနေများကို အသေးစိတ်လေ့လာပါ။

သင့်သားသမီးများ၏ သူငယ်ချင်းများသည် ဘယ်သူများနည်း။ သူတို့နှင့်သင်တွေ့ ဆုံဖူးသလား။ မြင်ဖူးသလား။ သင့် သားသမီးများသည် အိမ်မှ ထွက်လျှင်ဘာများယူသွား ကြသနည်း။ ဘာများ သယ်ဆောင်လာကြ သနည်း။ သူတို့၏ ဗီရို၊ လွယ်အိတ်၊ နှင့်အိပ်ရာခင်း၊ ခေါင်းအုံးတို့ အောက်တွင်၊ အထဲတွင် ဘာများရှိသနည်းဟူသည့် အချက်များကို ဂရုစိုက်သင့်သည်။ သင့်သမီး ဘယ်သို့သွားသနည်း။ ဘယ်သူနှင့် သွားသနည်းကို သင်သိပါ၏လော။ မိမိတို့ သားသမီးများ၏ အိတ်တွင် ဖုန်းတွင်ညစ်ညမ်းသည့်ပုံ၊ ဇာတ်ကားများရှိသည်ကိုပင် တချို့မိဘများ မသိကြချေ။ သူ့သမီးသည် အိမ် ဖော်နှင့်စျေးသွားပြီး အိမ်ဖော်ကို ကားဆရာနှင့်အတူ စောင့်၍ နေခဲ့ခိုင်းကာ ချိန်းထားသော ရှိုင်သွာန်တစ်ကောင်နှင့် သွားတွေ့ဆုံသည်ကို တချို့မိဘများ မသိကြချေ။ နောက်သမီး တစ်ဦးမှာ မကောင်းသော သူမ၏ မိတ်ဆွေထံသွားပြီး ဆေးရှူဆေးချ လုပ်နေသည်ကိုလည်း မိဘက မသိချေ။ မိမိတို့ သားသမီးများကို လွှတ်ထားသော ဤသူတို့သည် ကြီးကျယ်သောနေ့၏ မြင်ကွင်းမှ လွှတ်အောင် ပြေးနိုင်မည်မဟုတ်။ ကိယာမသ်၏ ကြောက်မက် ဖွယ်ရာများမှ ရုန်းထွက်၍ ပြေးနိုင်မည် အလျဉ်းမဟုတ်။ တာဝန်ခံတိုင်းကို သူ၏ လက်အောက်ငယ်သားများနှင့် ပတ်သက်၍ အလ္လာဟ်အရှင်မြတ်က မေးမြန်းတော်မူမည်။ တာဝန်ကျေခဲ့၏လော။ မကျေခဲ့သလော။ နောက်ဆုံး သူ့မိသားစုနှင့် ပတ်သက်၍လည်း မေးမြန်းခြင်းခံရမည်။ (စွဟီးဟုလ်ဂျာမိအ်ကျမ်း ၁၇၇၄)

သို့သော် ဤနေရာတွင် သတိမူရန် အချက်တချို့ ရှိသည်။

**၁။** စောင့်ကြည့်ခြင်းကို သိုသိပ်စွာ လုပ်ပါ။

**၂။** အကြမ်းဖက်၍ မထောက်လှမ်းပါနှင့်။

**၃။** မိမိကို မိဘက ယုံကြည်မှု မရှိတော့ဟု သားသမီးကို မခံစားမိစေပါနှင့်။

**၄။** ဆုံးမခြင်းနှင့်အပြစ်ပေးရာတွင် သားသမီးတို့၏ အသက်အရွယ်နှင့် ကျူးလွန်သည့် ပြစ်မှု၏ အဆင့်ကို ထောက်ရှုပါ။

**၅။** သူတို့၏ အပြစ်၊ လွဲချော်မှုများကို အသေးစိတ်က အစမှတ်တမ်းတင်၍ အသိပေး ခြင်း၊ ရေတွက်ခြင်း မပြုပါနှင့်။

လူတစ်ဦးက ကျွန်ုပ်ကို ပြောပြသည်။ ဖခင်တစ်ဦးသည် ကွန်ပြူတာတွင် Folder တစ်ခုဆောက်၍ ရက်စွဲနှင့်တကွ သူ့သား၏ အပြစ်၊ လွဲချော်မှုများကို အသေး စိတ် မှတ်တမ်းတင်လေ့ရှိသည်။ သားက အပြစ်တစ်ခု ကျူးလွန်မိရင် သားကို ခေါ်၍ သူ့ မှတ်တမ်းဖွင့်ကာ အပြစ်များကို ရေတွက်ပြလေ့ရှိပြီး သားကို အညွန့်ချိုးလေ့ရှိသ တဲ့။

မှတ်ချက်။ ။ ဖခင်သည် အပြစ်များကို မှတ်တမ်းတင်ရေးမှတ်ရန် တာဝန်ပေးခံရ သော ကောင်းကင်တမန်မဟုတ်ပေ။ ဤသို့သော ဖခင်မျိုးသည် အစ္စလာမ့်ပျိုးထောင် နည်းများကို တိုး၍ လေ့လာသင့်ပါသည်။

အထက်ပါဖော်ပြပါ မိဘများနှင့် ဆန့်ကျင်ဘက် ပုဂ္ဂိုလ်များလည်း ရှိပါသေး သည်။ သူတို့သည် မိမိတို့သားသမီးကိစ္စများတွင် လုံးဝ စွက်ဖက်မှု မပြုကြ။ ကလေး သည် အမှားကို မကျူးလွန်မိသရွေ့ အမှားမှန်းသိမည် မဟုတ်။ တစ်ခါ ကျူးလွန်မိ သော် အမှားမှန်း ကိုယ်တိုင်သိသွားကြမည်ဟု အကြောင်းပြ တတ်ကြသည်။ ဤအယူ အဆသည် အနောက်တိုင်း ဒဿနနို့ရည်ကို သောက်ပြီး ပြည့်ဝစွာ လွတ်လပ်ခွင့်ရှိ သည်ဟူသော အတွေးအခေါ်ဖြင့် နို့ဖြတ်ခံရသော ပုဂ္ဂိုလ်များမှ ပေါက်ဖွားလာသော အယူလွဲ အယူချော် ဖြစ်သည်။ ထိုနို့ကို တိုက်ကျွေးသူလည်း ဆိုးရွားလှပါဘိ။

ထိုအတွေးအခေါ်ဖြင့် နို့ဖြတ်ပေးသူလည်း ဆိုးရွားလှပါဘိ။ သူတို့ထဲမှ အချို့သည် သားသမီး၏ ငြိုငြင်မှုကို စိုးရိမ်၍ စည်းလွတ်ဝါးလွတ်ထားကြသည်။ ငါ့သားသမီး ဘာပဲလုပ်လုပ် သူတို့၏ အချစ်ကိုပဲ ငါရှာဖွေရမယ်ဟုလည်း တချို့က ပြောတတ်သေး သည်။ အချို့က မိမိတို့ မိဘများ လက်ထပ်တုန်းက တင်းကြပ်မှုများ ပြုခဲ့သောကြောင့် မိမိတို့မှာ လူငယ်ဘဝအတွေ့ အကြုံနှင့်အပျော်အပါးများမှ လက်မဲ့ဖြစ်ခဲ့ရသည့် အတွက် ယခု မိမိတို့ သားသမီးအလှည့် ရောက်တော့ မိမိတို့ မရရှိခဲ့သည့် အခွင့် အရေးများ သူတို့ရပါစေ။ သူတို့ ပျော်ကြပါစေဟု တစ်လွဲဆံပင်ပေါက်ကာ ပွဲပြင်ဆုံးမ ခြင်းကိုပင် ချုပ်ခြယ်ခြင်းဟု ထင် ကာ သားသမီးများကို လွတ်လပ်စွာ ပျော်ပါးခွင့်နှင့် ထင်တိုင်းကြဲခွင့် ပေးထားကြသည်။ ဤသားသမီးများပင် တစ်နေ့ ကိယာမသ် ရောက် သည့်အခါ မိမိတို့၏ ရင်စများကို ဆွဲကိုင်၍ အို– ဖေဖေ၊ ကျွန်တော်တို့ကို အကုသိုလ်၏ အညစ်အကြေးထဲတွင် ဘာကြောင့် စွန့်ပစ်ထားရတာလဲဟု အရေးဆို လာကြမည်ကို ဤမိဘများ မတွေးမိ၊ မဆင်ခြင်မိလေသလော။

## စေတနာစကား(၁၇)

## အိမ်တွင် ကလေးများကို ဂရုစိုက်ခြင်း။

ဂရုစိုက်ခြင်းသည် အမျိုးမျိုးရှိသည်။

ကုရ်အာန်ကျမ်းတော်မြတ်နှင့် အစ္စလာမ့်အကြောင်းအရာ ပုံပြင်များကို ကျက် မှတ်စေခြင်း။ အလှဆုံး ပုံစံတစ်ခုက ဖခင်သည် သားသမီးများကို စုရုံးပြီးနောက် ရှင်းလင်းချက် အနည်းငယ်နှင့် ကုရ်အာန် ကျက်ခိုင်းရမည်။ ကျက်နိုင်လျှင် ဆုပေးရ မည်။ အချို့ ကလေးများသည် မိဘတို့ ဖတ်သည်များကို ကြားရပါများ၍ အလွတ်ရ သွားကြသည်။

حفظكك الله يحفظ၊က ဟူသော ဟဒီးဆ် တော်ကဲ့သို့  အစ္စလာမ့်အခြေခံယုံကြည်ချက်များကို ကလေးများအား သင်ပေးရမည်။ ယဉ်ကျေးမှုများနှင့်တရားတော် ဘောင်ဝင်သည့် ဖိုကိရ်များကိုလည်း  သင်ပေးရမည်။ ဥပမာ–စားခြင်း၊ သောက်ခြင်း၊ အိပ်ရာဝင်ခြင်း၊ နှာချေခြင်း၊ စလာမ်ပေးခြင်း၊ ခွင့်တောင်းခြင်းဟူသော  ယဉ်ကျေးမှုများနှင့် ဖိုကိရ်တော်များကို  ကျက်မှတ်ရစေရမည်။  ကလေးများအတွက်  အလွန်ထိရောက်အကျိုးပြု၍  စူးရှမှုရှိရာတွင်  အစ္စလာမ့်ဖြစ်ရပ်မှန်နှင့်  အကြောင်းအရာများလောက်မည်သည့်  အရာကမျှ  မပိုပေ။  ဥပမာ–နူဟ်၏အကြောင်း၊  သူ့ခေတ်တွင်  ဖြစ်သည့်ရေကြီးမှုကြီး၊  ရုပ်တုများကို ထုခွဲကာ  မီးထဲ ထည့်ခံရသည့် အိဗ်ရာဟီမ်း၏ အကြောင်း၊ ဖိရ်အောင်၏ ရန်မှ လွတ်မြောက်သော မူဆာ၏ အကြောင်းနှင့် ဖိရ်အောင်နှ်(မင်းဆိုး) ရေနစ်သေခြင်း၏  အကြောင်း၊  ငါးဝမ်းဗိုက်ထဲမှ  ယူနွတ်စ်၏  အကြောင်း၊  ယူစွဖ်၏အကြောင်းအကျဉ်း၊ တမန်တော်မြတ်၏ နဗီဖြစ်ခြင်းနှင့် ဟိဂျ်ရည် စွန့်ခွာမှု အကြောင်း၊ တမန်တော်မြတ်(ဆွ)၏ စစ်ပွဲများဖြစ်သော ဗဒရ်၊ ခန်ဒက်ဟူသော ကျော်ကြားသည့် အကြောင်းအရာများ၊  သူတော်စင်  သူတော်မွန်တို့အကြောင်း၊  ဥပမာ–တဲစုတ်ထဲက ကလေးတစ်အုပ်နှင့် အမျိုးသမီးတို့ကို အုမရ်رضي الله عنهက မည်သို့ဂရုစိုက်ခဲ့သည့် အကြောင်း၊ ကျင်းကြီးများတူး၍ မီးလောင် တိုက်သွင်းခံရသော လူတို့၏ အကြောင်း၊ စူရဟ်နူန်တွင် လာရှိသည့်  ဥယျဉ်ပိုင်ရှင်  များအကြောင်း၊  လိုဏ်ဂူထဲ  ပိတ်မိသော  လူသုံးဦး၏ အကြောင်း  စသည်ဖြင့်  မွေးပျံ့သော  အကြောင်းအရာများစွာ  ရှိပါသည်။  အနည်းငယ်စီခွဲ၍  မှတ်ချက်များနှင့်  အကျိုးကျေးဇူးအပြင်၊  အနှစ်သာရတို့ကိုပါ  ထုတ်ပြကာ ပြောပြရမည်။ ဤသို့ မှန်ကန်သော၊ လုံလောက် သောအကြောင်းအရာများစွာ ရှိသောကြောင့်  ပုံတိုပတ်စများ၊  ဒဏ္ဍာရီပုံပြင်များ၊  လုပ်ကြံလီစယ်ထားသော  မဟုတ်မဟတ်အကြောင်း အရာများ၊ အရေမရ အဖက်မရသည့်အပြင် ကလေးများကို ကြောက်စိတ်၊

သူရဲဘောကြောင်သည့် စိတ်တွေပေးအပ်နိုင်မည့် တစ္ဆေသရဲများ၏ အကြောင်းများ လုံးဝဥဿုံ မလိုအပ်၊ မပြောအပ်၊ မပြောသင့်၊ မပြောထိုက်သည့်အပြင် မပြောဖို့လည်း အရေးကြီး သည်။

မိမိတို့၏ ကလေးများကို တွေ့ကရာ လူနှင့် ထွက်မသွားစေနှင့်။ သို့မဟုတ် ပါက အိမ်ကို မကောင်းသည့် အကျင့်များ၊ စာရိတ္တများ ကပ်၍ ပြန်လာကြမည်။ မိမိက လေးများနှင့် ဆော့ကစားရန်၊ ပေါင်းရန် မိမိကပင် အမျိုးအသိုင်းအဝိုင်းထဲမှ၊ အိမ်နီးနား ချင်းမှ အိမ်ပတ်ဝန်းကျင်တွင် ဆော့ကစားနိုင်မည့် ကလေးများကို ရွေးချယ်ကာ ပေါင်း ခိုင်းရမည်။

ကလေးများ၏ ဆော့ကစားစရာများကို ကြပ်မတ်ခြင်း ပြုရမည်။ ဆော့စရာများ ထားသည့် ဗီရို၊ အခန်းလေး တစ်ခုလုပ်ပေး ထားပါ။ ထိုထဲတွင် တရားတော်နှင့် ညှိစွန်း သည့် ကစားစရာများ ဥပမာ–တီးမှုတ်ခြင်းနှင့် ဂီတဆိုင်ရာ ပစ္စည်းများ၊ ရုပ်တုနှင့် ဖဲချပ်များ၊ လောင်းတမ်း ကစားရသည့် ကစားစရာများ မပါဝင်မိစေရန် သတိထားရ မည်။

အိမ်က လူငယ်များ ကစားရန် လက်မှု ပညာပစ္စည်းများနှင့် မကဲနစ်ပစ္စည်း များ၊ ကွန်ပျူတာများ ထားပေးပါ။ ကွန်ပျူတာကို မိမိကြပ်မတ်မှု အောက်တွင် ထားပါ။ ကလေးများ၏ ကိုယ်ကျင့်တရားများကို ဖျက်ဆီးရန် ရည်ရွယ်၍ တီထွင်ထားသော ဂိမ်းများ ပေါ်များစွာ ရှိပါသည်။ ကွန်ပျူတာထဲတွင်ပင် လောင်တမ်းကစားခြင်းများ ပြုနိုင်သောကြောင့် အဖျက်ကိစ္စများဘက် ဦးမတည် မိစေရန် ကိုယ်က ကြပ်မတ်ပေး ရမည်။

ကလေးများကို ယောကျ်ားလေး သတ်သတ်၊ မိန်းကလေးသတ်သတ် ခွဲ၍သိပ် ပါ။ မောင်နှမတွေပဲဟု အမှုမဲ့အမှတ်မဲ့ မထားသင့်ပေ။ သိတတ်စကလေးများကို အိပ်ရာ ခွဲ သိပ်ရန် တမန်တော်မြတ်ကြီးကိုယ်တိုင်က မှာကြားခဲ့သည်။

ကျီစယ်ခြင်းနှင့် ကြင်နာခြင်း ရှိရမည်။ တမန်တော်မြတ်(ဆွ)သည် ကလေးများကို ကျီစား၍ သူတို့နှင့် ဆော့ကစားလေ့ရှိသည်။ သူတို့၏ ဦးခေါင်းများကို ပွတ်သပ်ပေး လေ့ရှိသည်။ သူတို့ကို အကြင်နာ အပြည့်ဖြင့် ခေါ်ဝေါ်လေ့ရှိသည်။ ရာသီပေါ်အသီးရလျှင် ကလေးများအနက် အငယ်ဆုံးကို အလျင်ပေးလေ့ရှိသည်။ ဟစန် ﷺနှင့် ဟုစိုင်န် ﷺနှစ်ဦးနှင့် တမန်တော်မြတ် ﷺဆော့ကစားလေ့ရှိသည့် သာဓကေနှစ်ခု ပြပါမည်။

**၁။** အဗူဟုရိုင်ရဟ် ﷺ က ဆင့်ပြန်သည်။ တမန်တော်မြတ်(ဆွ)သည် အလီ ﷺ၏သား ဟစန်ကို လျှာထုတ်ပြတော်မူသည်။ ကလေးက လျှာ၏ အနီရောင်ကို မြင်ပြီးတော့ ပျော်ရွှင်မြူးတူးပြီး လှမ်းလှမ်းဆွဲလေသည်။ (စိလ်စလသုလ်စွဟီးဟာဟ်ကျမ်း–၇၀၊ အဲလ်လာကုန်နဗီ–၁၈၄)

**၂။** အလီဗင်န်မုရဟ် ﷺက ပြောပြသည်။ ကျွန်ုပ်တို့သည် တမန်တော်မြတ် ﷺ နှင့်အတူ ထွက်ခဲ့ကြသည်။ ကျွန်ုပ်တို့သည် စားသောက်ရန် ဖိတ်ကြားခြင်းခံကြရသည်။ ဟုစိုင်န် ﷺက လမ်းပေါ်တွင် ဆော့ကစားနေရာ ကိုယ်တော်မြတ်(ဆွ)က လူများရှေ့တွင် အလျင်အမြန်သွားလိုက်ပြီး မိမိလက်နှစ်ဖက်ကို ဆန့်တန်းထားလိုက်သည်။ ထိုအခါ ကလေးက ဟိုပြေး ဒီပြေးလုပ်တော့သည်။ ကိုယ်တော်က သူ့ကို ရယ်မော အောင် ပြုတော်မူနေသည်။ နောက်ဆုံး မိမိလက်နှစ်ဖက်အနက် တစ်ဖက်ကို ကလေး ၏ မေးစေ့နှင့် နောက်တစ်ဖက်ကို နောက်စေ့ပေါ်တွင် တင်ပြီး ကလေးကို ဖက်ပြီး နမ်းရှုတ်တော်မူလိုက်သည်။ (အလ်အဒဗုလ်မုဖ်ရဒ်ကျမ်း ၃၆၉)

## စေတနာစကား (၁၈)

## အိပ်ချိန်နှင့် စားသောက်ချိန်ကို သတ်မှတ်ခြင်း။

အချို့အိမ်များသည် ဟိုတယ်နှင့်ပင် တူကြသည်။ နေသူတွေသည် တစ်ယောက်ကိုတစ်ယောက် သိသည်မှာ အလွန်ရှားသည်။ တစ်ယောက်နှင့် တစ်ယောက် လည်း တွေ့ခဲကြသည်။

အချို့ကလေးများသည် စားချင်သည့်အချိန်စားသည်။ အိပ်ချင်သည့် အချိန် အိပ်သည်။ ညနက်သည်အထိ မအိပ်ဘဲ အချိန်တွေလည်း ဖြုန်းနေတတ်သည်။ အစားပေါ် အစားထပ်၍ စားကြသည်။ ဘာမျှ အစီအစဉ်တကျ မရှိကြ။ ဤလက်လွတ်စံပယ် နေခြင်းသည် အိမ်၏ အစည်းအနှောင် စွမ်းရည်များနှင့်အချိန်များ ပျက်စီးရန် အကြောင်းခံဖြစ်ကာ အတွင်းစိတ် မခိုင်မြဲဘဲ စည်းမဲ့ ကမ်းမဲ့ နေတတ်သွားကြမည်။ အကြောင်းရှိသည့် သူတွေကိုမူ ကျွန်ုပ်တို့ မဆိုလိုပေ။ အကြောင်းမှာ ကျောင်းသားများ၏ ကျောင်း ခေါ်ချိန်၊ ကျောင်းလွှတ်ချိန်များ မတူကြ။ ဝန်ထမ်းများလည်း နေရာမတူ၊ အချိန်မတူများ ရှိကြသည်။ သို့သော် အားလုံး ဤသို့ မဟုတ်ပေ။ မိသားစုလက်စုံနွဲ၍ စားသောက်လျက် စကားမစမြေပြောလျက် တစ်ယောက်အခြေအနေတစ်ယောက်က သိနေမည် ဆိုလျှင် အဘယ်မျှ ကောင်းမည်နည်း။ အိမ်ဦးစီးက အိမ်ပြန်ဝင်ရမည့် အချိန်ကိုလည်း သတ်မှတ်ထားရမည်။ အိပ်အပြင် ထွက်လျှင် အသိဉာဏ်မဖွံ့ဖြိုးသေးသော ကလေးများသည် အခွင့်မယူဘဲ အိမ်မှ အပြင်မထွက်ရအောင် အစီအမံလုပ်ထားရမည်။

## စေတနာစကား(၁၉)

## အိမ်ပြင်ပ၌ အမျိုးသမီး၏ လုပ်ငန်းလုပ်ခြင်းကို မှန်ကန်စေခြင်း။

အစ္စလာမ့်တရားတော်များသည် အချင်းချင်း ပေါင်း၍ ပြည့်ဝနေသည်။ အလ္လာဟ် အရှင်မြတ်သည် အမျိုးသမီးများကို وَ قَرۡنَ فِیۡ بُیُوۡتِکُنَّ “ ထို့ပြင် အသင်မတို့သည် အသင်မတို့၏နေအိမ်များ၌ပင် တည်ငြိမ်စွာ နေထိုင်ကြပါ။” (ကုရ်အာန်-၃၃း၃၃)ဟု

အမိန့် ပေးသောအခါ ဖခင်၊ ခင်ပွန်းယောက်ျား ဟူသော သူမတို့ အပေါ် သုံးစွဲမည့်၊ သူမတို့၏ စရိတ်ကို တာဝန်ခံမည့် လူတွေကိုလည်း ပြုလုပ်ပေးလိုက်သည်။

မူရင်း အမိန့်မှာ အမျိုးသမီးသည် လိုအပ်ချက်မရှိလျှင် အိမ်အတွင်း၌သာနေ၍ အလုပ်လုပ်ရသည်။ သာဂေ ပြရသော် တမန်တော်မူစာသည် ဆိတ်များကို ထိန်းသိမ်း၍ ရေတိုက်ရမည့် အချိန်ကို စောင့်နေသော အမျိုးသမီးနှစ်ဦးကို မြင်တော့ သူတို့ကို မေးလေသည်။

قَالَ مَا خَطْبُكُمَا ۖ قَالَتَا لَا نَسْقِي حَتَّىٰ يُصْدِرَ الرِّعَاءُ ۖ وَأَبُونَا شَيْخٌ كَبِيرٌ ﴿٢٣﴾

“ ၎င်းက အသင်မတို့နှစ်ဦးသည် မည်သို့နည်းဟုမေးသည့်အခါ သူမတို့နှစ်ဦးက ပြောဆိုခဲ့ကြသည်- ထိုထိန်းကျောင်း သူများသည် (သူတို့၏တိရစ္ဆာန်များကို) ပြန်ထုတ် မသွားသမျှ ကျွန်မတို့သည် (ကျွန်မတို့၏ တိရစ္ဆာန်များကို) ရေတိုက်ကျွေးခြင်း မပြုလုပ်နိုင်ပေ။ ထို့ပြင် ကျွန်မတို့၏ ဖခင်သည်လည်း အသက်အရွယ်အိုမင်းရင့်ရော်နေသူ ဖြစ်သည်။” (ကုရ်အာန်–၂၈း၂၃) သူတို့နှစ်ယောက်က ဆိတ်ကို ရေတိုက်ရန် အပြင်ထွက်ရသည်ဟု အကြောင်းပြသည်။ ထိုအကြောင်းမှာ သူတို့နှစ်ဦး၏ အုပ်ထိန်းသူသည် အသက်ကြီးနေပြီဖြစ်သောကြောင့် အလုပ်လုပ်ရန် မစွမ်းနိုင်တော့ချေ။ ထို့ကြောင့်လည်း အခွင့်သာ လာသည့်နှင့် တစ်ပြိုင်နက် အိမ်ပြင်ပတွင် လုပ်ရသော အလုပ်မှ လွတ်ကင်းရန် သူတို့နှစ်ဦးက လိုလားခဲ့၍ ဖခင်ကို ဤသို့ ပြောကြသည်။

قَالَتْ إِحْدَاهُمَا يَا أَبَتِ اسْتَأْجِرْهُ ۖ إِنَّ خَيْرَ مَنِ اسْتَأْجَرْتَ الْقَوِيُّ الْأَمِينُ ﴿٢٦﴾

“သူမတို့နှစ်ဦးထဲမှ တစ်ဦးက “အို–ဖခင်၊ ဖခင်သည် ၎င်းကို (အလုပ်လုပ်မည့်သူ အဖြစ်) ငှားလိုက်ပါ။ အမှန်စင်စစ် ဖခင် ငှားမည့်သူများထဲတွင် အင်အား

တောင့်တင်းသူ၊ ယုံကြည်စိတ်ချရသူသည် အကောင်းဆုံး ဖြစ်ပါသည်”ဟုပြောဆိုသည်။” (ကုရ်အာန်–၂၈း၂၆)

အိမ်ပြင်ပတွင် ကြုံတွေ့ရသော ဒုက္ခနှင့် သိက္ခာကျမှုတို့မှ ကိုယ့်ကိုယ်ကိုယ် ကာကွယ်ရန် အိမ်သို့ ပြန်ဝင်လိုကြောင်း ရှင်းပြခဲ့ ပါသည်။

ပထမနှင့်ဒုတိယကမ္ဘာစစ်ပြီးနောက် ယောက်ျားများ၏ လျော့နည်းမှုကို ဖြည့်ဆည်းရန်နှင့် စစ်ကြောင့် ပျက်စီးခဲ့သော မြို့ပြကို ပြန်လည် တည်ဆောက်မွန်းမံလျက် အဘက်အဘက်မှ တိုးတက်မှုများ စံချိန်ပြန်မီလာရန် ကာဖိရ်များက အမျိုးသမီးထု၏ လုပ်အားကို လိုအပ်လာခဲ့ကြသည်။ ထိုလိုအပ်ချက်သည် အမျိုးသမီးနှင့် လူ့ဘောင်အသိုင်းအဝိုင်းကို ဖျက်ဆီးရန် ရည်ရွယ်ချက်ဖြင့် ကလိန်စေ့ ငြမ်းဆင်ထားသည့် အမျိုးသမီးတို့ လွတ်ကျွတ်ရေး၊ အမျိုးသမီးအခွင့်အရေးဟူသော “ယဟူဒီ” “ဂျူး” တို့၏ စိတ်ကူးယဉ်အိပ်မက်ကို အကောင်အထည်ဖော်ပေးမည့် လမ်းစတစ်ခု ဖြစ်ခဲ့သည်။ ထိုမှသည် အမျိုးသမီးတို့ အိမ်ပြင် ထွက်၍ အလုပ်လုပ်ရရေးဟူသည့် ပြဿနာကြီး ပေါ်ပေါက်လာခဲ့သည်။ ထိုအချိန်မှစ၍ ဂျူးတို့၏ ညို့မှိုင်းကွန့်မြူးလျက်ရှိသော လူသားမျိုးနွယ်ရေတိမ်နစ်ခြင်းနှင့် ရှက်ဖွယ်လိလိကိစ္စတို့၏ လျှိုမိုက်ထဲတွင် အသက်နှင့်လဲ၍ တိုးဝင်သည်အထိ အမျိုးသမီးထုက မိုက်မဲခဲ့ကြသည်။ ကိုယ့်ကိုယ်ကိုယ် မိုက်လို့ မိုက်မှန်းမသိတဲ့ အမျိုးသမီးခများရှာတို့မှာ အဖက်ဆယ်၍ မရတော့မှ ကျုံးသွင်းခံလိုက်ရသော ဆင်များပမာ မျက်စိသူငယ် နားသူငယ်နှင့် ရှိနေကြသည်ကို ကျွန်ုပ်တို့ မြင်ကြရသောအခါ ငါတို့နမတွေ ဂျူးတို့ ပစ်လာတဲ့တီကိုပဲမြင်၊ ချိတ်ကို မမြင်ရှာတဲ့ ငါးသူငယ်ဘဝရောက်လေပြီလား” ဟူ၍ တွေးကာ ရင်နာလို့ မဆုံးအောင် ခံစားကြရပါသည်။

အမျိုးသမီးတို့ အိမ်ပြင် ရောက်အောင် ဆွဲထုတ်ရသော အကြောင်းတရားများသည် ကျွန်ုပ်တို့ ပတ်ဝန်းကျင်တွင် မရှိပါဘဲလျက်၊ မွတ်စ်လင်မ်အမျိုးသားများသည် သူ့မိသားစုဝင် အမျိုးသမီးများကို ကာကွယ်ကျွေးမွေးနေပါလျက် အမျိုးသမီး အခွင့်အ

ရေး ဟူသော ခေါင်းစဉ်လုလုနှင့် လှုပ်ရှားမှုသည် ရှင်သန်အမြစ်တွယ်၍ ခိုင်မာဖွံ့ဖြိုး လာပေသည်။

စင်စစ်တွင် ကျွန်ုပ်တို့သည် အမျိုးသမီးများကို အပြင်ထုတ်၍ ခိုင်းစားရန် မလို အပ်ပေ။ အကြောင်းမှာ အလုပ်လက်မဲ့နှင့် အမျိုးသားများ ယခုတိုင် မှုလိုပေါက်နေဆဲ ပင် ဖြစ်သည်။ ထိုအမျိုးသားများအား အသုံးချရပေမည်။ အမျိုးသမီးများကိုကား ရတ နာ သဖွယ် သိမ်းစည်းကွယ်ဝှက်ထားရပေမည်။

အမျိုးသမီးများကို အလုပ်ခိုင်းရန် လုံးဝ မလိုအပ်ဟု ကျွန်ုပ်တို့ မဆိုလိုပေ။ သင်ပေး၊ သင်ယူ၊ သူနာပြု၊ ဆေးကုမှုဟူသော အမျိုးသမီးကဏ္ဍတွင် တရားတော်နှင့် အညီ လိုအပ်ချက်ရှိပါသည်။ မလိုအပ်ဘဲဟူသော ကန့်သတ်ချက်ဖြင့် ပြောဆိုခြင်းမှာ အမျိုးသမီး တော်တော်များများသည် မလိုအပ်ဘဲနှင့်လည်း အပြင်ထွက်ရန်အတွက် ဘာမဟုတ်သည့် လခအနည်းငယ်အတွက်နှင့် မလိုအပ်ဘဲ ထွက်ကြသည်။ ထိုအခါ ကြီးမားသော နောက်ဆက်တွဲ ဆိုးကျိုးများ တရစက် ဖြစ်ပေါ်တော့သည်။

စင်စစ်တွင် ခေတ်သစ်အမြင်နှင့် အစ္စလာမ်အမြင် လွန်စွာခြင်းပင် ဖြစ်သည်။ အစ္စလာမ်၏အမြင်မှာ မူရင်းအမိန့်သည် وَ قَرْنَ فِيْ بُيُوْتِكُنَّ " ထို့ပြင် အသင်မတို့သည် အသင်မတို့၏နေအိမ်များ၌ပင် တည်ငြိမ်စွာ နေထိုင်ကြပါ။"(ကုရ်အာန်-၃၃း၃၃) ဟူ သော အိမ်ထဲတွင် နေရမည့် အမိန့်ဖြစ်ပြီး ခေတ်သစ်အမြင်မှာ အခြေအနေတိုင်းတွင် မူရင်းဖြစ်သင့်သည့် အရာများသည် အိမ်ပြင် ထွက်ခြင်းပင် ဖြစ်သည်။ ကျွန်ုပ်တို့ကမူ လိုအပ်မှုရှိမှသာ အပြင်ထွက်ခွင့်ပြုထားသည်။

ဆန့်ကျင်ဘက်အမြင် နှစ်ခုကြားတွင် မျှတစွာ ပြောမည်ဆိုလျှင် လိုအပ်ချက်ရှိ ပါက ထွက်ခွင့်ရှိသည်ဟူသော အမြင်သည် အမျှတဆုံး ဖြစ်သည်။ ဥပမာ-ထိုအမျိုး သမီးမှ မရှာလျှင် မိသားစုရပ်တည်ဖို့ ခဲယဉ်းမည်ဆိုလျှင်၊ လင်ယောကျ်ားသေဆုံးပြီး သို့မဟုတ် မတတ်စွမ်းနိုင်၍ ကလေးများက ထိုအမျိုးသမီးပေါ်မူတည်နေလျှင်၊ သို့

မဟုတ် ထိုအမျိုးသမီးက မိဘမဲ့၍ မရှန်းကန်လို့ မဖြစ်သည့် အခြေအနေဆိုးလျှင် အစ္စလာမ်က မတားမြစ်ပေ။ အချို့နိုင်ငံများတွင် အမျိုးသမီးများသည် လိုအပ်၍ အပြင်ထွက် အလုပ် လုပ်ကြသည်မဟုတ်။ ထိုနိုင်ငံ၏ ပတ်ဝန်းကျင်းက အစ္စလာမ့်အုတ်မြစ်ပေါ် မရပ်တည်သည့်အတွက် အပြင်ထွက်အလုပ် လုပ်ရခြင်း ဖြစ်သည်။ အိမ်စရိတ်မလုံလောက်၍ လင်မယားနှစ်ယောက်စလုံးထွက်ရှာရသည့် အခြေအနေလည်းရှိသည်။ မောင်တစ်ထမ်း၊ မယ်တစ်ရွက်ဖြင့် မသွားလျှင် ရေသောက် မိုက်မောက်၍ နေရမည့်အနေအထားလည်း ရှိသည်။ အချို့ယောက်ျားများက အလုပ်အကိုင်ရှိသည့် မိန်းမမျိုးကိုမှ ယူသည့် သဘောရှိသလို ၊ အချို့က စယူကတည်းက နှစ်ယောက်စလုံး အလုပ်လုပ်ရမည်ဟု စာချုပ် ချုပ်ဆိုသည့်အခါမှာ စည်းကမ်းချက်တစ်ချက် အဖြစ်သဘောတူပြီး လက်ထပ်ကြသည်။ ဤထိုထို အခြေအနေတို့ကြောင့် အလုပ်ထွက်မလုပ်၍ မရသည့် အနေအထားမျိုး ဖန်တီးထားကြသည်။ ဤဆိုးကျိုးများအားလုံး၏ ကောက်ကြောင်းကို လိုက်၍ ကြည့်လျှင်အဆုံးတွင် အစ္စလာမ့်လူနေမှုစနစ်ကို ပစ်ပယ်၍ အခြားလူမျိုးများ တီထွင်ထားသော စနစ်ကို မက်မောခုံမင်ခြင်းကြောင့် ဟူသော တစ်ခုတည်းသော အကြောင်းခံကို တွေ့ရမည်။

အချုပ်ကိုဆိုရသော် လိုအပ်ချက်နှင့် အစ္စလာမ့် ရည်ရွယ်ချက်တစ်ခုခုရှိမှသာ အမျိုးသမီးက အပြင်အလုပ်ကို လုပ်ခွင့်ရှိ သည်။ ဥပမာ– သင်ပေးသင်ယူကဏ္ဍတွင် အလ္လာ့ဟ်ဘက်ကို ဖိတ်ခေါ်ရန်အတွက် သို့မဟုတ် သားသမီးများမရှိသော မုဆိုးမ၊ အမယ် အို စသူတို့ကို ကူညီဖြေသိမ့်ရန် အတွက်တို့ ဖြစ်သည်။

အမျိုးသမီးများ အိမ်ပြင်ထွက်၍ အလုပ်လုပ်ခြင်း၏ ဆိုးကျိုးများအနက်– ရှရီအသ်တရားတော်က မလိုအားသောအရာများစွာ ဖြစ်ပေါ်သည်။ ဥပမာ အမျိုးသားများနှင့် ရောထွေးခြင်း၊ သူတို့နှင့် ကျွမ်းဝင်ရင်းနှီးခြင်း၊ ဆိတ်ကွယ်ရာတွင် သူတို့နှင့်ဆုံကြခြင်း၊ သူတို့အတွက် အမွှေးအကြိုင်သုတ်လိမ်းခြင်း၊ ထိုသူစိမ်းတရံဆံများအဖို့ အလှ

ပြင်ခြင်း၊ ပြုခြင်း နောက်ဆုံးတွင် တစ်ခါတစ်ရံ ကာမေသုမိစ္ဆာစာရကံ ကျူးလွန်မိခြင်းတို့ ဖြစ်သည်။

– အမျိုးသားများ၏ ဝတ္တရားများ လစ်ဟင်းခြင်း။ အိမ်ကို လှည့်မကြည့်နိုင်၍ ပစ်ထားခြင်း၊ သားသမီးများကို ပျိုးထောင်ရာတွင် အချိန်မပေးနိုင်သောကြောင့် သားသမီး ဝတ္တရား လစ်ဟင်းခြင်း စသည်တို့ဖြစ်သည်။

– အမျိုးသားများသည် ဦးဆောင်သူများ၊ တာဝန်ခံများဖြစ်သည် ဟူသော အမျိုးသမီးတို့၏ စိတ်တွင်းရှိ ခံယူချက်များ ယုတ်လျော့လာခြင်း။ မြင်ယောင်ကြည့်ပါ။ အမျိုးသမီးလည်း အမျိုးသားကဲ့သို့ပင် သက်သေထွက်ဆိုမည်၊ အမျိုးသားထက် သို့မဟုတ် အမျိုးသားလောက် ပိုက်ဆံရှာမည်ဆိုလျှင် ထိုအမျိုးသမီးသည် မိမိလင်ယောက်ျားကို လိုအပ်ပါဦးမည်လော။ (လိုအပ်လျှင်လည်း အမျိုးသားရှိမှကို ဖြစ်မည့်ကိစ္စအတွက်ပဲ လိုအပ်တော့မည်။)ထိုသို့ ကိုယ့်ခြေပေါ် ကိုယ်ရပ်နိုင်သည်ဟု အောက်မေ့ထားသော အမျိုးသမီးသည် သူ့လင်ယောက်ျား၏ အမိန့်ကို အပြည့်အဝ နာခံနိုင်မည်လော။ လင်ယောက်ျားကို မလိုအပ်တော့သော အမျိုးသမီး နှင့် အိမ်တစ်ဆောင် မီးတစ်ပြောင် မပျိုကွဲအောင် အမြဲဆက်လက် ထူထောင်ထားနိုင်ပါဦးမည်လော။ ဘာမျှ မှုမရာမရှိ၊ ဂရုစိုက်စရာမရှိ၊ ကိုယ့်မှာလည်း ဆက်လက်ရပ်တည်ဖို့ အလုပ်အကိုင်လည်း ရှိတော့၊ ကြောင့်ကြစရာလည်း မရှိ၊ အရွယ်နတုန်းပျိုတုန်းဆိုတော့ နောက်အိမ်ထောင်အတွက် အခက်အခဲ မရှိဆိုလျှင် လင်မယားနှစ်ယောက်ကြားရှိသည့် ကြိုးသည် အချိန်မရွေး ပြတ်နိုင်သည့်ကြိုး မဟုတ်လော။

–သွေးသားနှင့်စိတ်သဘောထား နူးညံ့သော အမျိုးသမီးများအပေါ် သူတို့နှင့် မလိုက်ဖက်သည့် အလုပ်တာဝန်များကို အပ်နှင်းခြင်း။ အမျိုးသမီးများ၏ သဘာဝသည် အိမ်တွင်းရေးကိစ္စများ၊ လင်ယောက်ျားနှင့် သားသမီးများ၏ ဝေယျာဝိစ္စများနှင့် လိုက်ဖက်သင့်သည်။ အမျိုးသားမှာကား ၎င်းတို့ကို ကျွေးမွေးစောင့်ရှောက်လျက် ပြင်ပကိစ္စများကို တာဝန်ယူရမည်။

အိမ်ပြင်ပ၌ အမျိုးသမီး အလုပ်လုပ်ခြင်း၏ ကောင်းကျိုးဆိုးပြစ်များကို တင်ပြပြီးနောက် မှာကြားလိုသည်မှာ အလ္လာဟ်အရှင်မြတ်ကို ကြောက်ရွံ့ရိုသေရန်နှင့် ကိစ္စများကို ရှရီအသ်ချိန်ခွင့်ဖြင့် ချိန်ဆရန် ဖြစ်သည်။ ထို့ပြင် အလုပ်ထွက်လုပ်ဖို့ ပိုင်၊ မပိုင်သည့် အခြေအနေများကိုလည်း သိထားရန် လိုအပ်ပေသည်။ လောကီရှာဖွေမှုက သင့်ကို မှန်ကန်သော လမ်းကြောင်းပေါ်တွင် လျှောက်လှမ်းရာ၌ အတားအဆီး မဖြစ်စေပါနှင့်။ သူမ၏ ကောင်းကျိုးနှင့် အိမ်၏ ကောင်းကျိုးကို မျှော်ကိုး၍ ခင်ပွန်းက တားမြစ်လျှင် အမိန့်နာခံရပေမည်။ ခင်ပွန်းကလည်း မတရားသဖြင့် ဇနီးသည်၏ ပိုင်ဆိုင်မှုကို မဝါးမျိုရပေ။

## စေတနာစကား(၂၀)

## အိမ်၏လျှို့ဝှက်ချက်များကို ထိန်းသိမ်းခြင်း။

**၁။** ခြင်ထောင်အတွင်း၊ အိပ်ရာပေါ်တွင် ဖြစ်သည့်ကိစ္စများကို မဖြန့်ချိရ။

**၂။** လင်မယားနှစ်ယောက်၏ ပြဿနာကို အခြားသူတွေဆီ မစီးဆင်းစေပါနှင့်။

**၃။** ထုတ်ဖော်ခြင်းဖြင့် အိမ်သို့မဟုတ် မိသားစုဝင်တစ်ဦးဦးအတွက် ဒုက္ခရှိသည့် အဘယ်ကိစ္စကိုမျှ မပျံ့နှံ့စေပါနှင့်။

ပထမအချက် ဟာရာမ်ဖြစ်ခြင်း၏အထောက်အထားမှာ ဤဟဒီးဆ်တော်ဖြစ်သည်။ ကိယာမသ်နေ့တွင် အလ္လာ့ဟ်ထံတော်ပါးမှာ အဆိုးရွားဆုံးအဆင့်ရှိမည့် သူမှာ မိမိဇနီးနှင့် လိင်ဆက်ဆံပြီး သူမ၏လျှို့ဝှက်ချက်ကို ပြန်လည်ဖောက်သည်ချ ပြောဆိုသူပင် ဖြစ်သည်။ (မွတ်စ်လင်မ်ကျမ်း–၄/၁၅၇)

ထိုသို့ ခြင်ထောင်ထဲက ကိစ္စကို အခြားသူများအား ပြန်လည်မျှဝေ ပြောဆိုသူသည် လမ်းပေါ် လူမြင်ကွင်း၌ လိင်ဆက်ဆံသော ရှိုင်သွာန်အထီးနှင့် အမတို့ကဲ့သို့ ဖြစ်သည်ဟု အတ်စ်မာအ်ဗင်န်ယဇီးဒ်ရဿ၏ ဟဒီးဆ်တော်တွင် လာရှိထားသည်။ (မုစ်နဒ်အဟ်မဒ်ကျမ်း–၂၇၅၈၃၊ စွဟီးဟုလ်ဂျာမိအ်ကျမ်း၊ ၄၀၀၈)

ဒုတိယအချက်ဖြစ်သော လင်မယားပြဿနာသည် အခြားသို့ ယိုစီးသွားလျှင် ပြဿနာမှာ ပို၍ခက်ခဲ၊ ပို၍ကြီးမားသွားတတ်သည်။ နှစ်ယောက်တည်းနှင့်ဖြေရှင်းဖို့ လုံး၀ မဖြစ်နိုင်တော့မှသာ နှစ်ဦးနှစ်ဖက်မှ စေ့စပ်ပေးမည့် လူကြီးကို ခေါ်၍ဖြေရှင်းရ၏။

وَإِنْ خِفْتُمْ شِقَاقَ بَيْنِهِمَا فَابْعَثُوا حَكَمًا مِّنْ أَهْلِهِ وَحَكَمًا مِّنْ أَهْلِهَا إِن يُرِيدَا إِصْلَاحًا يُوَفِّقِ اللَّهُ

بَيْنَهُمَا ۗ إِنَّ اللَّهَ كَانَ عَلِيمًا خَبِيرًا ﴿٣٥﴾

"ထို့ပြင် အကယ်၍ အသင်တို့သည် ထိုဇနီးခင်ပွန်းနှစ်ဦးတို့၏ အကြားတွင်ကွဲလွဲမှုပြဿနာဖြစ်ပွားမည်ကို စိုးရိမ်ခဲ့ကြလျှင် ခင်ပွန်း၏ ဆွေမျိုးများဘက်မှခုံသမာဓိလူကြီး တစ်ဦးနှင့် ဇနီး၏ ဆွေမျိုးများဘက်မှ ခုံသမာဓိလူကြီး တစ်ဦးတို့ကို ခန့်အပ်(ပြီးဖြေရှင်း)ကြပါ။ အကယ်၍ ထို(ခုံလူကြီး)နှစ်ဦးသည် ထိုဇနီးခင်ပွန်းနှစ်ဦးအားကောင်းမွန်စေရန် ပြုပြင်မှုကို ရည်ရွယ်ကြလျှင် အလ္လာဟ်အရှင်မြတ်သည် သူတို့ (ဇနီးခင်ပွန်း) နှစ်ဦးကြားတွင် ညီညွတ်စေတော်မူမည်။ အမှန်စင်စစ်အလ္လာဟ် အရှင်မြတ်သည် အကြွင်းမဲ့သိတော်မူသောအရှင်၊ အကြွင်းမဲ့ကြားသိတော်မူသောအရှင် ဖြစ်တော်မူသည်။ " (ကုရ်အာန်–၄း ၃၅)

တတိယအချက်ဖြစ်သော အိမ်၊ သို့မဟုတ် မိသားစုဝင်တစ်ဦးဦးကို ဒုက္ခဖြစ်စေမည့် ကိစ္စကို အပြင်မရောက်စေနှင့် ဟူသော စေတနာစကားသည် စင်စစ်တွင် တမန်တော်ﷺ၏ ဣြဒီဝါဒတွင် ပါဝင်အကြုံးဝင်နေသောကြောင့် ဖြစ်သည်။ ကိုယ်တိုင်လည်း ဒုက္ခမဖြစ်စေနှင့်။ အခြားသူကိုလည်း ဒုက္ခမဖြစ်စေနှင့်။ (စိလ်စလသုလ်စွဟီးဟာဟ်ကျမ်း၊ ၂၅၀)

ထိုပမာတူ (ကုရ်အာန်–၆၆း၁၀) အာယသ်တော်၏ ဖွင့်ဆိုမှု၌လည်း လာရှိထားပါသည်။ အိမ်နကဆီးရ်က ဆင့်ပြန်တယ်။ တမန်တော်နူဟ်၏ ဇနီးသည် သူ၏

လျှို့ဝှက်ချက်ကို ထောက်လှမ်း၍ တစ်ဦးတစ်ယောက်က အီမာန်လက်ခံလျှင် သူမ၏ အမျိုးသားများကို သတင်းပေးလေ့ရှိသည်။

တမန်တော်လူးသ္မ်၏ ဇနီးမှာမူ သူမခင်ပွန်းထံ ဧည့်သည်တစ်ဦးဦးလာလျှင် ထိုဧည့်သည်များကို လိင်မှုကိစ္စဖျော်ဖြေ နိုင်ရန်အတွက် သူမ၏ မျိုးနွယ်ဝင် အမျိုးသား များကို သတင်းပို့လေ့ရှိသည်။ (အိဗ်နုကဆီးရ်ကျမ်း–တွဲ–၈ စာ–၁၉၂)

**စေတနာစကား(၂၁)**

**အိမ်တွင်းကိုယ်ကျင့်တရားများ**

အိမ်တွင် နူးညံ့သိမ်မွေ့သော ကိုယ်ကျင့်တရားများကို ပြန့်နှံ့စေခြင်း။

အာအိရှဟ်ﷺက ဆင့်ပြန်ပြောပြသည်။ တမန်တော်မြတ်ﷺက မိန့်တော်မူ သည်။ အလ္လာဟ်အရှင်မြတ်သည် မိသားစုဝင် တစ်စုကို ကောင်းစားစေလိုသည်ဆိုလျှင် သူတို့ထဲတွင် နူးညံ့သိမ်မွေ့မှုကို ထည့်သွင်းပေးတော်မူလိုက်သည်။ (စွဟီးဟုလ်ဂျာ မိအ်ကျမ်း၊ ၃၀၃)

ဆိုလိုသည်မှာ တစ်ယောက်ကိုတစ်ယောက် သိမ်မွေ့စွာ ဆက်ဆံလေတော့သည်။ ဤ သည် အိမ်၏ သာယာမှုပင် ဖြစ်သည်။ နူးညံ့သိမ်မွေ့မှုသည် ကြမ်းတမ်းမှုများက မယူ ဆောင်လာနိုင်သော ကောင်းခြင်းများကို ယူဆောင်လာနိုင်သည်။ တမန်တော် မြတ်ﷺက ထိုသဘောကို ဤသို့ မိန့်ပါသည်။ အလ္လာဟ်အရှင်မြတ်သည် နူးညံ့သိမ် မွေ့မှုကို နှစ်သက်ပါသည်။ ထို့ပြင် ကြမ်းတမ်းခြင်းကြောင့် မပေးသောအရာကို နူးညံ့ သိမ်မွေ့မှုဖြင့် ချီးမြှင့်တော်မူသည်။ ထို့ပြင် နူးညံ့မှုကလွဲ၍ တခြားဘယ်အရာနှင့်မျှ မရ နိုင်သော အရာများကို ချီးမြှင့်တော်မူသည်။ (မွတ်စ်လင်မ်ကျမ်း–၂၅၉၃)

## စေတနာစကား(၂၂)

## အိမ်မှုကိစ္စတွင် အိမ်သားများကို ကူညီခြင်း။

ယောက်ျားအများစုသည် အိမ်အလုပ်ကို မလုပ်လိုကြ။ အိမ်သူနှင့်အတူ အိမ်မှုကိစ္စများကို ရော၍လုပ်ခြင်းသည်ပင် သိက္ခာကို ထိခိုက်သည်ဟု တချို့က ထင်ကြပေသည်။ တမန်တော်မြတ်ﷺကမူ ကိုယ့်အဝတ်ကိုယ် ချုပ်သည်။ ကိုယ့်ဖိနပ် ကိုယ်ပြင်သည်။ အိမ်၌ ယောက်ျားသားများလုပ်သော အလုပ်ကိုလည်း လုပ်သည်။ (စွဟီးဟုလ် ဂျာမိအ်ကျမ်း၊ ၄၉၃၇)

တမန်တော်ﷺသည် အိမ်တွင် ဘာလုပ်သနည်းဟု မေးခြင်းခံရသောအခါ အထက်ပါအချက်များကို အာအိရှဟ်ﷺက မိန့်ပါသည်။ အခြားဆင့်ပြန်ချက်တစ်ရပ်တွင် ဤသို့လာသည်။ တမန်တော်ﷺသည် အိမ်တွင် လူသားတစ်ယောက်ပင် ဖြစ်သည်။ ကိုယ့်အဝတ်ကိုယ်လျှော်တော်မူသည်။ ဆိတ်ကိုလည်း ကိုယ်တိုင် နို့ညှစ်တော်မူသည်။ ကိုယ့်ဝေယျာဝစ္စကိုလည်း ကိုယ့်ဘာသာကိုယ် လုပ်တော်မူသည်။ (အိဗ်နုဟိဗ္ဗာန်ကျမ်း၊ ၅၆၇၅)

အခြားဆင့်ပြန်ချက်တွင် ဤသို့ လာသည်။ တမန်တော်မြတ်ﷺသည် အိမ်မှုကိစ္စအဝဝတွင် ရှိနေတော်မူသည်။ စွလာသ်အချိန် ရောက်လျှင် ထွက်သွားတော်မူသည်။ (ဗုခါရီကျမ်း၊၆၄၇)

ကျွန်ုပ်တို့လည်း ထိုအတိုင်း လိုက်၍ လုပ်လျှင် များစွာအကျိုးဖြစ်ထွန်းပါသည်။ ထို့အနက် တမန်တော့်နောက် ဖဝါးခြေထပ် လိုက်ရာလည်း ရောက်သည်။ မိသားစုကို ကူညီပံ့ပိုးခြင်းလည်း ဖြစ်သည်။ ကျိုးနွံမှုလည်း ဖြစ်ပေါ်သည်။ မာနကို ချိုးရာလည်း ကျသည်။

တချို့အမျိုးသားများသည် သည်းခံမှုနည်း၍ နို့ဆာနေသောကလေးကိုလည်း မချီ၊ ထမင်းကိုလည်း ချက်ချင်းလိုချင်သည်။ ဇနီး၏အခက်အခဲကို နားမလည်ပေး

ကြပေ။ ထိုသို့သော ပုဂ္ဂိုလ်များအနက် အထက်ပါ ဟဒီးဆ်တော်များသည် သတိတရား ရစရာ အကြောင်း ဖြစ်နိုင်သည်။

## စေတနာစကား(၂၃)
## အိမ်သူကို ကျူခြင်းနှင့် ကလူခြင်း။

အိမ်သူကို ကျူခြင်းနှင့် ကလူခြင်း စသည့်ပျော်စေဖြစ်စေ၊ ကျီစယ်စရာများ သည် အိမ်ကို သာယာ၍ ပျော်စရာဝန်းကျင် ဖြစ်စေရန် အကြောင်းခံတစ်ခု ဖြစ်သည်။ ထို့ကြောင့် တမန်တော်မြတ်ﷺသည် ဂျာဗိရ်ရ်ကို ဤသို့ မိန့်တော်မူသည်။ အပျိုကို လက်ထပ်ရောပေ့ါကွာ၊ ကလူတူတူနှင့် တစ်ယောက်ကို တစ်ယောက် ကျူလို့ရတာပေ့ါ။ (ဗုခါရီ၊ မွတ်စ်လင်မ်)

တမန်တော်မြတ်ﷺက မိန့်တော်မူပါသေးသည်။ (၄)ခုသောအရာမှအပ အလ္လာဟ်အရှင်မြတ်ကို တသခြင်းမရှိသည့် အရာ တိုင်းသည် အလဟဿအချည်းနှီး အလုပ်ပင် ဖြစ်သည်။ (ထို-၄ခု အနက်တစ်ခုမှာ) မိမိဇနီးနှင့် ဆော့ကစားကျီစယ်ခြင်း ပင်ဖြစ်သည်။ (စွဟီးဟုလ်ဂျာမိအ်ကျမ်း၊၄၅၃၄) တမန်တော်မြတ်ﷺကိုယ်တော်လည်း ရေချိုးခိုက် မိမိဇနီးသည် အာအိရှဟ်ရ်ကို ကျီစယ်လေ့ရှိသည်။

အာအိရှဟ်ရ်က မိန့်သည်။ ကိုယ်တော်နှင့် ကျွန်မသည် ပုံးတစ်ပုံးတည်းဖြင့် အတူတူ ရေချိုးကြသည်။ ကိုယ်တော်က ကျွန်မကို ဦးသွားသောကြောင့် ကျွန်မက ဤသို့ပင် ပြောရသည်။ ကျွန်မအတွက်လည်း ချန်ပေးဦး။ ကျွန်မအတွက်လည်း ချန် ပေးပါဦး။ သခင်မက ဆက်၍မိန့်သည်။ သူတို့နှစ်ဦးစလုံးသည် ထိုစဉ်က ကိုယ်မသန့် လျက် ရှိခဲ့ကြသည်။ (မွတ်စ်လင်မ်ကျမ်း၊ ၃၂၁)

ကလေးများကို ကြင်နာယုယသည့် တမန်တော့်အကြောင်းများမှာမူ အထူး ဖော်ပြရန် မလိုလောက်အောင်ပင် ကျော်ကြားများ ပြားလှသည်။

တမန်တော်သည် များသောအားဖြင့် ကြင်နာယုယခဲ့သော ကလေးများမှာ ဟာစံနှင့်ဟုစိုင်ﷺတို့ဖြစ်သည်။ ထို့ကြောင့် ဖြစ်မည်ထင်သည်။ ကလေးများသည် တမန်တော်မြတ်ﷺ ခရီးမှ ပြန်လာလျှင် ပျော်ရွှင်၍ ခရီးဦးကြိုရန် ကိုယ်တော့်ဆီကို အပြေးအလွှား သွားကြလေသည်။ မှန်ကန်သော ဟဒီးဆ်တော်တွင် လာရှိသည်။ တမန်တော်မြတ်သည် ခရီးမှ ပြန်လာလျှင် မိသားစုထဲမှ ကလေးများဖြင့် ကိုယ်တော့်ကို ခရီးဦးကြိုပြုကြလေ့ရှိသည်။ (မွတ်စ်လင်မ်ကျမ်း၊ ၂၄၂၈)

ကျီစယ်မှု၊ ကြင်နာယုယမှုနှင့် စနောက်ခြင်းများ ရှိသည့်အိမ်နှင့် မရှိသည့် အိမ်များကို ယှဉ်ကြည့်ပါ။ များစွာကွာခြားကြောင်း သိရပေမည်။ သားသမီးများကို နမ်းရှုတ်ခြင်းသည် ဖခင်၏ အရှိန်အဝါနှင့် ဗီလာဆန့်ကျင်သည်ဟု ထင်မှတ်သူသည် ဒီဟဒီးဆ်ကို ဖတ်ပါ။ အဗူဟုရိုင်ရဟ်"က ဆင့်ပြန်သည်။ တမန်တော်မြတ်ﷺသည် ဟာစံ ဗင်န်အလီ"ကို နမ်းရှုတ်တော်မူလိုက်သည်။ ထိုစဉ် တမန်တော်မြတ်ﷺထံပါးမှာ အက် ရာအ်ဗင်န်ဟာဗိစ်က ထိုင်နေသည်။ အက်ရာအ်က ပြောသည်။ ကျွန်ုပ်တွင် သားသမီး ဆယ်ယောက်ရှိသည်။ တစ်ဦးကိုမျှ ကျွန်ုပ်မနမ်းပါ။ ထိုအခါ တမန်တော်မြတ်ﷺက သူ့ကို ကြည့်တော်မူပြီး မိန့်တော်မူသည်။ မသနားမကြင်နာသည့် သူသည် သနားကြင် နာခြင်း ခံရမည်မဟုတ်။ (ဗုခါရီကျမ်း ၅၉၉၇၊ မွတ်စ်လင်မ်ကျမ်း ၂၃၁၈)

**စေတနာစကား (၂၄)**

**အိမ်တွင်ရှိသော မကောင်းသည့် အကျင့်များကို ဖျောက်ခြင်း။**

လိမ်ခြင်း၊ ကုန်းချောခြင်း၊ အတင်းပြောခြင်းဟူသော အကျင့်တစ်ခုခုမှ လွတ် ကင်းသည်မှာ အလွန်ရှားပါသည်။ ထိုအကျင့်များကို ဖျောက်ပစ်ရပါမည်။ ဤရောဂါ၊

အကျင့်များကို ကုစားရာတွင် ရိုက်နှက်ခြင်း တစ်မျိုးတည်းသာ ဖြစ်နိုင်သည်ဟု တချို့က ထင်ကြသည်။ အောက်မှာ လာရှိသော ဟဒီဆ်တော်တွင် ပြုစုပျိုးထောင် နည်းများပါရှိပါသည်။ အာအိရှဟ်သခင်မက ပြောပြသည်။ တမန်တော်မြတ်ﷺသည် မိသားစုထဲမှ တစ်ဦးတစ်ယောက် လိမ်ညာသည်ကို သိတော်မူသောအခါ သူအမှားဝန်ခံ မတောင်းပန်မချင်း သူ့ကို ဥပက္ခာပြုထားတော်မူလေ့ရှိသည်။ (စွဟီးဟ့်လ်ဂျာမိအ်ကျမ်း၊ ၄၆၇၅)

ဤအခြေအနေမျိုးတွင် ဥပက္ခာပြု မခေါ် မပြောဘဲ အလေးမမူဘဲ နေခြင်းက ထိရောက်သော ပြစ်ဒဏ်ဖြစ်ကြောင်း ဟဒီဆ်တော်ဖြင့် ထင်ရှားသွားပါပြီ။ သို့သာမက တစ်ခါတရံတွင် ရိုက်နှက်ခြင်းထက်ပင် ပိုထိရောက်ပါသေးသည်။ အိမ်၏ အကြီးအကဲများ ဆင်ခြင်သုံးသပ်ကြပါ။

**စေတနာစကား(၂၅)**

**အိမ်သားများ မြင်နိုင်မည့်နေရာတွင် ကြိမ်လုံးကို ချိတ်ဆွဲထားပါ။**

ပြစ်ဒဏ်၏ အရောင်ပြထားခြင်းသည် ယဉ်ကျေးမှုရရှိရန် သုံးသည့် ခေတ်မီနည်းလမ်း တစ်ခုဖြစ်သည်။ ထို့ကြောင့် အိမ်တွင် ကြိမ်လုံးချိတ်ဆွဲခြင်း၏ အကြောင်းရင်းကိုပါ ဟဒီးစ်တော်က ဖော်ပြထားသည်။ ဆင့်ပြန်ချက်တစ်ခုတွင် တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ အိမ်သားများ မြင်တွေ့ရအောင် ကြိမ်ကို ချိတ်ဆွဲထားကြ။ ထိုသို့လုပ်ခြင်းသည် သူတို့အတွက် ယဉ်ကျေးမှု အရနိုင်ဆုံးဖြစ်သည်။ (စွဟီးဟ့်လ် ဂျာမိအ်ကျမ်း–၄၀၂၂)

အပြစ်ပေးသည့် ကိရိယာကို ချိတ်ဆွဲထားလျက် မြင်ရလျှင် ပြစ်မှုကျူးလွန်လိုသူများသည် ပြစ်ဒဏ်ကို မြင်ယောင်၍ တွန့်နေ ကြလိမ့်မည်။ ပြစ်မှုထဲ ဆင်းသက်ရဲ

မည်မဟုတ်။ ထို့ပြင် ကောင်းမြတ်သော ကိုယ်ကျင့် တရားများကို မဖြစ်မနေ ရယူကြပေလိမ့်မည်။

အိမ်နအန်ဗာရီက မိန့်သည်။ ဤသြဝါတွင် ရိုက်နက်ရန် အမိန့်ပေးထားသည် မဟုတ်။ ဆုံးမခြင်းအလုပ်ကို မလွတ်ရန်သာ အမိန့်ပေးထားခြင်းဖြစ်သည်။ (မနာဝီ၏ ဖိုင်ဒုလ်ကဒီးရ်ကျမ်း တွဲ ၄ စာ ၃၂၅)

ရိုက်ခြင်းသည် အမြဲလုပ်ဆောင်ရမည့် အလုပ်မဟုတ်ပေ။ ရိုက်နက်ခြင်းသည် နောက်ဆုံး အဆင့်ဖြစ် ပေသည်။ တခြားနည်းများ အသုံးမဝင်တော့မှသာ သူ့ကို အသုံးပြုရာ၏။ ကျမ်းမြတ်ကုရ်အာန်တွင် အပြစ်ပေးခြင်းကို ဤသို့ အစီစဉ် လိုက်ဖော်ပြထားပါသည်။

اَلرِّجَالُ قَوّٰمُوْنَ عَلَى النِّسَآءِ بِمَا فَضَّلَ اللّٰهُ بَعْضَهُمْ عَلٰى بَعْضٍ وَّبِمَآ اَنْفَقُوْا مِنْ اَمْوَالِهِمْ ؕ فَالصّٰلِحٰتُ قٰنِتٰتٌ حٰفِظٰتٌ لِّلْغَيْبِ بِمَا حَفِظَ اللّٰهُ ؕ وَالّٰتِيْ تَخَافُوْنَ نُشُوْزَهُنَّ فَعِظُوْهُنَّ وَاهْجُرُوْهُنَّ فِي الْمَضَاجِعِ وَاضْرِبُوْهُنَّ ۚ فَاِنْ اَطَعْنَكُمْ فَلَا تَبْغُوْا عَلَيْهِنَّ سَبِيْلًا ؕ اِنَّ اللّٰهَ كَانَ عَلِيًّا كَبِيْرًا ﴿٣٤﴾

"ယောကျ်ားများသည် မိန်းမများအပေါ်တွင် ကြီးကြပ်အုပ်ထိန်းသူများ ဖြစ်ကြသည်၊ အဘယ့်ကြောင့်ဆိုသော် အလ္လာဟ်အရှင်မြတ်က အချို့ကို အချို့ထက် (ယောကျ်ားများကို မိန်းမများထက်)အရည်အချင်း၊ အဆင့်အတန်း သာလွန်စေတော်မူခဲ့သည့် အပြင် ယောကျ်ားများသည် သူတို့၏ ပစ္စည်းဥစ္စာများကို (မိန်းမများအပေါ်တွင်)သုံးစွဲသည့် အတွက်ကြောင့်လည်းဖြစ်သည်။ သို့ဖြစ်ရာ အမျိုးသမီးကောင်းများသည် (ခင်ပွန်း၏)အမိန့်ကို နာခံသူများဖြစ်ကြသည်၊ အလ္လာဟ်အရှင်မြတ်၏ စောင့်ရှောက်မှုဖြင့် (ခင်ပွန်း) ကွယ်ရာတွင် (ခင်ပွန်း၏ ပစ္စည်းနှင့် သူမ၏အရှက်သိက္ခာကို) ထိန်းသိမ်းသူများ ဖြစ်ကြသည်။ ထို့ပြင် အသင်တို့သည် အကြင်ဇနီး မိန်းမများ၏ သွေဖည်မှုကို စိုးရိမ်ကြလျှင် (ပထမအဆင့်အနေဖြင့်) အသင်တို့သည် ထိုဇနီးမိန်းမများကို ပြုပြင်ဆုံးမကြပါ။ ထို့နောက် (မနာခံကြသေးလျှင် ဒုတိယအဆင့်အနေဖြင့်) အသင်တို့သည် ထိုဇနီးမိန်းမများကို အိပ်ခန်းများထဲတွင် (သီးခြားခွဲအိပ်ပြီး) စွန့်ထား

လိုက်ကြပါ။ ထို့နောက်(လည်း မနာခံကြသေးလျှင်) အသင်တို့သည် ထိုဇနီးမိန်းမများကို (မပြင်းထန်သောရိုက်ခြင်းမျိုးနှင့်) ရိုက်(ပြီးဆုံးမ)ကြပါ။ ထို့နောက် အကယ်၍ သူမတို့သည် အသင်တို့၏အမိန့်ကို နာခံကြပြီဆိုလျှင် အသင်တို့သည် သူမတို့နှင့် ဆန့်ကျင်ပြီး မည်သည့်နည်းလမ်းကိုမျှ မရှာကြတော့နှင့်။ အမှန်စင်စစ် အလ္လာဟ်အရှင်မြတ်သည် အလွန်မြင့်မားတော်မူသောအရှင်၊ အလွန်ကြီးကျယ် ထူးကဲမြင့်မြတ်တော်မူသောအရှင် ဖြစ်တော်မူသည်။” (ကုရ်အာန်−၄း ၃၄)

ထို့အတူ ဟဒီဆ်တော်တွင်လည်း လာရှိပါသည်။ အသက် (၇) နှစ်ပြည့်လျှင် အသင်တို့၏ သားသမီးများကို စွလားသ် ဝတ်ပြုရန် အမိန့်ပေးစေခိုင်းကြလော့။ (၁၀) နှစ်ပြည့်၍မှ မလုပ်ဆောင်လျှင် ရိုက်ကြလော့။ ထို့ပြင် သူတို့ကို အိပ်ရာခွဲ၍ သိပ်ကြကုန်။ (အဗူဒါဝူးဒ်ကျမ်း ၄၉၅)

မလိုအပ်ဘဲ ရိုက်နက်ခြင်းသည် မတရားမှုဖြစ်သည်။ တုတ်ကို ဘယ်တော့မှ အောက်ချမထားတတ်သည့် လူနှင့် လက်မထပ်ရန် တမန်တော်က အမျိုးသမီးတစ်ဦးကို ဆုံးမစကားပြောတော်မူဖူးသည်။ (မွတ်စ်လင်မ်ကျမ်း ၁၄၈၀)

ပြုစုပျိုးထောင်ရာတွင် တုတ်ကို လုံးဝမသုံး၊ ရိုက်နက်ခြင်းကို အလျဉ်းမလုပ်ရဟူသော ကာဖိရ်များ၏ အတွေးအယူသည် ရှရီအတ်တရားတော်၏ အတိအလင်း လာထားသော အမိန့်တော်နှင့် ဆန့်ကျင်သည့်အတွက် မှားသည်။

## အိမ်တွင်း၌ဖြစ်ပေါ်သော မကောင်းမှုများ

**စေတနာစကား (၂၆)** ခင်ပွန်းယောကျ်ားမရှိခိုက် အိမ်တွင်ရှိသော အမျိုးသမီးထံ နိကာဟ်လက်ထပ်ခြင်း ပိုင်သည့် အမျိုးများ မဝင်မိစေရန် သတိထားရမည်။

**စေတနာစကား(၂၇)** တွေ့ဆုံပွဲနှင့် အလည်အပတ်သွားသောအခါ အမျိုးသားနှင့် အမျိုးသမီး သီးသန့် ခွဲထားရမည်။

**စေတနာစကား (၂၈)** အိမ်က ကားဒရိုင်ဘာများနှင့် အိမ်ဖော်များ၏ အန္တရာယ်ကြီးမှုကို မသိကျိုးကျွန် ပြုမထားရ။

**စေတနာစကား (၂၉)** မိန်းမလျာများကို အိမ်ထဲမှ မောင်းထုတ်ပါ။

**စေတနာစကား(၃၀)** တီဗီဖန်သားပြင်၏ အန္တရာယ်ကို သတိထားပါ။

**စေတနာစကား(၃၁)** ဖုန်း၊ မိုဘိုင်းတို့၏ အန္တရာယ်ကို သတိထားပါ။

**စေတနာစကား(၃၂)** ကာဖိရ်များ၏ မှားယွင်းသော အယူအဆ ၊ ကိုးကွယ်မှု စသည်၏အမှတ်သင်္ကေတများကို အိမ်မှဖယ်ရှားပါ။

**စေတနာစကား(၃၃)** သက်ရှိများ၏ ပုံ၊ ပန်းချီ၊ ကားချပ်များကို ဖယ်ရှားဖျက်ဆီးပစ်လိုက်ပါ။

**စေတနာစကား(၃၄)** အိမ်အတွင်း ဆေးလိပ်မသောက်စေနှင့်။

**စေတနာစကား(၃၅)** အိမ်အတွင်း ခွေးသတ္တဝါမွေးထားခြင်းကို ရှောင်ပါ။

**စေတနာစကား(၃၆)** အိမ်ကို အဆင်တန်ဆာများ၊ ဟန်ပြ၊ ဗန်းပြများမှ ကာကွယ်ထားပါ။

**စေတနာစကား(၃၇)**

အိမ်အတွင်းအပြင်၊ အိမ်၏ တည်နေရာရွေးချယ်ကောင်းခြင်းနှင့် စည်းစနစ်ကျခြင်း။

မွတ်စ်လင်မ်သည် အိမ်ရွေးရာတွင် အခြားသူတွေ ဂရုမပြုလေ့ရှိသော အရာများကို ဂရုစိုက်လေ့ရှိသည်မှာ သံသယဖြစ်ဖွယ် မရှိပါ။ တည်နေရာနှင့်ပတ်သက်လျှင် ဥပမာ အိမ်က ဗလီနှင့်နီးခြင်း။

ယင်းသို့ နီးစပ်ခြင်းဖြင့် များစွာ အကျိုးရှိပါသည်။ အဇာန်သံသည် စွလာသ် အတွက် နှိုးပေးမည်။ သတိပေးမည်။ အိမ်နီး သောကြောင့် ဂျမာအသ်ကို မီနိုင်သည်။ ဗလီ၏ မိုက်ဖြင့် အိမ်မှ အမျိုးသမီးများသည် ကုရ်အာန်ဖတ်ရွတ်မှုကို ကြားနာနိုင်သည်။

ဗလီမှ တရားစကားများကို ကြားနာနိုင်သည်။ ဗလီတွင်ဖြစ်သော ထိုင်ဝိုင်းများ၊ ကုရ်အာန်၏ထိုင်ဝိုင်းများကို ကလေးတွေ အလွယ်တကူလာနိုင်မည်။

အိမ်ကို တရားပျက်သူယုတ်မာများရှိသော အဆောက်အဦတွင် သို့မဟုတ် အလယ်တွင် ယောက်ျား၊ မိန်းမရောစ၍ ကူးကြသော ရေကန်ရှိသော အိမ်ရာတွင် မရွေးချယ်ပါနှင့်။ အိမ်မှာ အကာအကွယ်ရှိပါစေ။ မရှိလျှင် ကန့်လန့်ကာ တပ်ခြင်း၊ တံတိုင်းမြင့်ခြင်းတို့ကို လုပ်ပါ။

စည်းစနစ်ကျခြင်းဆိုသည်မှာ အပြင်မှလာသော ဧည့်သည်များအတွက် အမျိုးသားသီးသန့်၊ အမျိုးသမီးသီးသန့် နေရာများ လုပ်ထားပါ။ မရှိလျှင် ကန့်လန့်ကာများဖြင့် အခန်းလေးတွေ ဖွဲ့ထားပါ။ အိမ်နီးချင်းနှင့် လမ်းသွားလမ်းလာများ မမြင်နိုင်အောင် အိမ်တံခါးများတွင် လိုက်ကာများထားပါ။

အသုံးပြုရာတွင် အိမ်သာများသည် ကိဗ်လဟ်ဘက်သို့ လှည့်မနေစေပါနှင့်။ အိမ်ကို ကျယ်ကျယ်ရွေးပါ။ ထို့အတူသက်သောင့်သက်သာ ပစ္စည်းများကိုလည်း အိမ်မှာထားပါ။ အကြောင်းမှာ အလ္လာဟ်အရှင်မြတ်သည် သူ၏ကျေးဇူးစည်းစိမ်များကို သူ၏ကျွန်များပေါ်တွင် တွေ့လိုတော်မူသည်။ (သိရ်မိဇီကျမ်း– ၂၈၁၉)

- ကံကောင်းခြင်း သုံးခုရှိသည်။ ကံဆိုးခြင်း သုံးခုရှိသည်။

- ကံကောင်းခြင်းများတွင်

**(၁)** သူတော်မွန်အမျိုးသမီး။ သူမကို မြင်ရလျှင် စိတ်ချမ်းသာရသည်။ သူမနှင့်ကွယ်ရာတွင် ရှိလျှင်လည်း သူမခန္ဓာကိုယ်နှင့် သင့်ပစ္စည်းများအတွက် စိတ်မပူရ။

**(၂)** လိမ်မာယဉ်ကျေးသော တိရစ္ဆာန်။ သင့်မိတ်ဆွေများနှင့် မျက်ခြေမပျက်အောင် ပို့ဆောင်ပေးနိုင်သည်။

**(၃)** ကျယ်ဝန်းပြီး သက်တောင့်သက်သာမှုရှိသော အိမ်တို့ ဖြစ်သည်။

- ကံဆိုးခြင်းများတွင်

**(၁)** ဆိုးသွမ်းသော အမျိုးသမီး။ သူမကို တွေ့ရလျှင်လည်း စိတ်မချမ်းသာရ။ အမြဲ တတွတ်တွတ်နှင့် သင့်ကို ညှဉ်းဆဲနေသည်။ သူမနှင့် ကွယ်ရာမှာ ရှိလျှင် လည်း သူမခန္ဓာနှင့် သင့်ပစ္စည်းဥစ္စာများကို စိတ်မချရ။

**(၂)** အလွန်နေးကွေးပြီး ရိုက်လျှင်လည်း ပင်ပန်းသည်သာ အဖက်တင်ပြီး မိတ် ဆွေများထံ အရောက်မပို့ပေးနိုင်သော တရိစ္ဆာန်။

**(၃)** သက်သောင့်သက်သာ နည်းသောအိမ်တို့ ဖြစ်သည်။ (ဟာကိမ်ကျမ်း- ၂၆၈၄၊ စွဟီးဟုလ်ဂျာမိအ်ကျမ်း၊ ၃၀၅၆)

❖ လေညှင်းခံ၊ လေအေးခံခြင်း၊ နေပူစာ လှုံခြင်းစသည့် ကျန်းမာရေးဆိုင်ရာ ကိစ္စများကိုလည်း လိုက်စားပါ။

## စေတနာစကား(၃၈)
## အိမ်မရှာခင် အိမ်နီးချင်း ရှာပါ။

ဤကိစ္စသည် အရေးကြီးသည့်အတွက် သီးသန့်ဖော်ပြရန် လိုအပ်ပေသည်။ ဤခေတ်တွင် အိမ်များနီးစပ်၍၊ အိမ်ရာနှင့် တိုက်ခန်းနှင့် ပတ်ဝန်းကျင်နှင့် နေရသော ကြောင့် မိမိအိမ်ပေါ်တွင် အိမ်နီးချင်းပတ်ဝန်းကျင်၏ ရိုက်ခတ်မှု များစွာရှိသည်။ တမန် တော်မြတ်ﷺသည် ကံကောင်းခြင်းလေးခုအနက် အိမ်နီးချင်းကောင်းကိုလည်း တစ်ခု အဖြစ် ထည့်သွင်းမိန့်တော်မူပြီး ကံဆိုးခြင်း(၄)ခုအနက် အိမ်နီးချင်းဆိုးကိုလည်း တစ်ခုအဖြစ် ရေတွက်မိန့်တော်မူခဲ့သည်။ (အိဗ်နဟိဗ္ဗားန်ကျမ်း၊ ၄၀၃၂၊ စိလ်စလသုလ စွဟီးဟာဟ်ကျမ်း၊ ၂၈၂)

ထို့ကြောင့် မိမိ ဆုတောင်းထဲတွင်ပင် အိမ်နီးချင်းဆိုးမှ အလ္လာဟ်အရှင်မြတ်ထံ ခိုလှုံခွင့်ပန်ခဲ့ပေသည်။ (ဟာကိမ်ကျမ်း– ၁၉၅၁၊ စွဟီးဟုလ်ဂျာမိအ်ကျမ်း၊ ၁၂၉၀)

ထို့ပြင် မွတ်စ်လင်မ်တို့ကိုလည်း အိမ်နီးချင်းဆိုးမှ အလ္လာဟ်အရှင်မြတ်ထံ ခိုလှုံခွင့်တောင်းဖို့ မိန့်ကြားတော်မူခဲ့သည်။ (နစာအီကျမ်း၊၅၅၀၂၊ စွဟီးဟုလ်ဂျာမိအ် ကျမ်း၊၂၉၆၇)

အိမ်နီးချင်းကောင်းရရန်အတွက် ပိုက်ဆံကို မတွန့်တိုပါနှင့်။ အိမ်နီးချင်း ကောင်းသည် ပိုက်ဆံနှင့်တိုင်း၍ မရပါ။ ပိုက်ဆံကုန်လျှင် ပြန်ရှာနိုင်သည်။ မိသားစု ပျက်စီးလျှင် ဘဝနစ်နာလိမ့်မည်။

## စေတနာစကား(၃၉)

အိမ်တွင် လိုအပ်သော ပြင်ဆင်မှုများကို ပြင်ပါ။ သက်တောင့်သက်သာ ဖြစ်စေမည့် အရာများကို များများထားပါ။ ဤခေတ်တွင် လောကဥ ဘဝကျောင်းလန်းမှု လွယ်ကူစေသော၊ သက်တောင့်သက်သာ ဖြစ်စေသော အရာများ ချီးမြှင့်လိုက်ခြင်းသည် အလ္လာဟ်အရှင်မြတ်၏ ကျေးဇူးပင်ဖြစ်ပါသည်။ အချိန်အလွတ်တွေလည်း များစွာထွက်လာသည်။ ထို့ကြောင့် လူသက်သာ၊ အချိန် သက်သာသော အဲယားကွန်း၊ ပန်ခါ၊ ရေခဲသေတ္တာ၊ မိုက်ကရိုဝေ့ဗ်၊ အဝတ်လျှော်စက် စသည့်ပစ္စည်းများကို မယုတ်မလွန် အိမ်တွင် ထားအပ်ပါသည်။ လိုအပ်ချက်နှင့် အပိုကို ခွဲ၍ သိရန်လည်း လိုအပ်ပေသည်။ ထိုအရာများထားရန် ပြောခြင်းသည် စည်းစိမ်ထဲတွင် မူးရူး၍ နပ်နေရန် ပြောခြင်း မဟုတ်။ စက်ပစ္စည်းကို ခိုင်းစေနိုင်သော အရာများကို စက်ပစ္စည်းကို ခိုင်းရန် ဖြစ်သည်။ ခိုင်း၍ မဖြစ်သော အရာများကို ကိုယ်တိုင်လုပ်ရမည်။ ပင်ပန်းမှုသည် အဓိကမဟုတ်။ အဓိကမှာ အလုပ်ဖြစ်၍ ရည်ရွယ်ချက် ပြည့်မြောက်ရန်သာ ဖြစ်သည်။ မပင်မပန်း အချိန်မကုန်ဘဲ အလုပ်ဖြစ်ခြင်းနှင့် ပင်ပန်းပြီး အချိန်ကုန်ပြီး အလုပ်ဖြစ်ခြင်းအနက် မည်သည့်အရာကို ရွေးမည်နည်း။

ထို့ပြင် အိမ်တွင် ပျက်နေသော ပစ္စည်းများကို ပြင်၍ထားပါ။ မိမိက အိမ်တွင် တစ်နေကုန်မရှိလည်း ရှိသည့် အိမ်သူအိမ်သားတွေ သက်သောင့်သက်သာ ရှိရန် အပျက်များကို ပြင်ပေးထားပါ။ ပျက်အစဉ် ပြင်ခဏပင် ဖြစ်သည်။ အိမ်ကို သန့်ရှင်းစွာ ထားပါ။ စတိုခန်းလို မထားပါနှင့်။ ပိုးမွှားတိရစ္ဆာန် ခြ၊ ကင်း၊ ပင့်ကူ၊ အိမ်မြှောင်၊ ကြွက်များသည် အိမ်၏ ကျက်သရေနှင့် ဆန့်ကျင်ပေသည်။ မသပ်မရပ်၊ မသန့်မရှင်း ဖြစ်နေလျှင် အိမ်လည်း မသာယာ၊ ကျန်းမာရေးနှင့်လည်း မညီညွတ်ပေ။

## စေတနာစကား(၄၀)

## အိမ်သူအိမ်သားများ၏ ကျန်းမာရေးကို ဂရုစိုက်ပါ။

တမန်တော်မြတ်သည် မိသားစုထဲမှ တစ်ဦးတစ်ယောက် နေမကောင်းဖြစ်လျှင် မုအောင်ဝိဇားသ်(စူရဟ်ဖလက်နှင့် စူရဟ်နားစ်)တို့ဖြင့် ဖတ်၍ မန်းမှုတ်ပေးလေ့ရှိသည်။ (မွတ်စ်လင်မ်ကျမ်း၊ ၂၁၉၂)

တမန်တော်မြတ်သည် အိမ်သားများ နေမကောင်းဖြစ်လျှင် ဟစားအ်ဟုခေါ်သော စွပ်ပြုတ်တစ်မျိုးကို သောက်ခိုင်းသည်။ (သိရ်မိဇီကျမ်း၊၂၀၃၉၊ စွဟီးဟုလ်ဂျာမိအ်ကျမ်း၊၄၆၄၆)

## ထိန်းသိမ်းကာကွယ်မှုများ တချို့ကိုလည်း လုပ်ပါ။

တမန်တော်မြတ်ﷺက မိန့်တော်မူသည်။ ညနေချမ်းရောက်လျှင် ကလေးများကို ထိန်းထားကြ။ အကြောင်းမှာ ထိုအချိန်တွင် ရှိုင်သွာန်များ ပျံ့နှံ့ကြသည်။ ညမိုးချုပ်သွားပြီးပြီဆိုမှသာ ၎င်းတို့ကို လွှတ်ပေးလိုက်ကြပါ။ ထို့ပြင် ဗိစ်မိလ္လာဟ်ဆို၍ တံခါးများကို ပိတ်လိုက်ကြပါ။ ခွက်ယောက်များ အပေါ်တွင် ကန့်လန့်ဖြတ်တစ်ခုခုတင်၍ပင် ဖြစ်

စေ အုပ်ထားလိုက်ကြပါ။ ထို့နောက် မီးများကို ငြိမ်းလိုက် ကြပါ။ (ဗုခါရီကျမ်း– ၃၀၃၈၊ မွတ်စ်လင်မ်ကျမ်း၊ ၃၇၅၆)

မွတ်စ်လင်မ်ကျမ်း၏ ဆင့်ပြန်မှုတစ်ခုတွင် ဤသို့ လာရှိသည်။ သင်တို့၏ တံခါးများကို ပိတ်လိုက်ကြပါ။ ခွက်ယောက်များကို ဖုံးအုပ်လိုက်ကြပါ။ မီးခွက်များကို ငြိမ်းလိုက်ကြပါ။ ရေအိတ်များ၏ နှုတ်ခမ်းများကို စည်းထားလိုက်ကြပါ။ ရှိုင်သွာန်သည် ပိတ်ထားသော တံခါးကို မဖွင့်ပေ။ အုပ်ထားသောအရာကို မဖွင့်ပေ။ စည်းထားသော အရာကို မဖြေပေ။ ကြွက်များသည် အိမ်သားများကို မီးလောင်တိုက်သွင်းကြသည်။ (ထို့ကြောင့် မီးခွက်များ ငြိမ်း၍ အိပ်သင့်သည်။) (မွတ်စ်လင်မ်ကျမ်း၊ ၃၇၅၅)

တမန်တော်မြတ်ﷺက မိန့်တော်မူပါသည်။ အိပ်သောအခါ မီးများကို မငြိမ်းဘဲ မထားကြနှင့်။ (ဗုခါရီကျမ်း– ၅၈၁၉၊ မွတ်စ်လင်မ်ကျမ်း၊ ၃၇၅၉)

အလ္လာဟ်အရှင်မြတ်သာလျှင် အသိဆုံးဖြစ်တော်မူသည်။ အရှင်မြတ်သည် တမန်တော်နှင့် ကိုယ်တော့်မိသားစု၊ စွဟာဗဟ် များအပေါ်သို့ မေတ္တာကရုဏာ အဖြာဖြာ ပို့ပေးသနားတော်မူပါစေ။

✓ **ဘာသာပြန်ဆိုသူ –––**

✓ **မုဖ်သီ ဖိုင်စွာလ် ကာစိမီ တန့်ယန်း**